# မုဖ်သီမုဟမ္မဒ်အာစွင်းမ် (နဒ်ဝီ၊အဗ္ဗုလ်ဟစနီ၊မဇ္ဇာဟော့ရီ) ၏ရင်တွင်းစကား

## အစ္စလာမ်နှင့်အမျိုးသမီးအဆင့်အတန်း

အစ္စလာမ်သာသနာတော်တွင် အမျိုးသမီး၏တန်ဖိုး၊ အဆင့်အတန်းသည်အလွန်မြင့်မားလှသည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင်လည်း အရှင်မြတ်က စူရဟ်နိစားအ်ဟူသော စူရဟ်တစ်ပုဒ်ကို ချပေးခြင်းဖြင့် အမျိုးသမီးထုအား ဂုဏ်ပြုထားတော်မူသည်။ အမျိုးသမီးဖြစ်ခြင်းသည် အဆင့်အတန်းခွဲခြားရန် စံတစ်ခုမဟုတ်ဘဲ မည်သည့်အမျိုးသမီးပင်မဆို ကောင်းမှုများပွားများရင်း အမျိုးသားများထက် အဆင့်အတန်းမြင့်မြင့်ပိုင်ဆိုင်သွားနိုင်ပါသည်။

## သမိုင်းတစ်လျှောက်ထွန်းထောက်ခဲ့သည့် အစ္စလာမ့်အမျိုးသမီးများ

သမိုင်းတစ်လျှောက်ထွန်းထောက်ခဲ့သည့် အစ္စလာမ့်အမျိုးသမီးတို့၏အခန်းသည်လည်း အစ္စလာမ့်သမိုင်းကို တင့်တယ်စေခဲ့သည်။ မရ်ယမ်သခင်မ၏ စွမ်းဆောင်ချက်၊ အာစေ့ယဟ်သခင်မကြီး၏ ပေးဆပ်စတေးမှု၊ ဘိလ်ကီးစ်သခင်မကြီး၏ ဉာဏ်ပညာအမြော်အမြင်စသည်တို့ကို အရှင်မြတ်ကိုယ်တော်တိုင် ကျမ်းတော်မြတ်ကုရ်အာန်တွင် မှတ်တမ်းထင်ထားသည်မှာ အမျိုးသမီးထုအတွက် ဂုဏ်ယူအားကျဖွယ်ပင်မဟုတ်ပါလော။

ကျွန်ုပ်တို့နဗီကြီး (ﷺ) ကလည်း အမျိုးသမီးများကိုတန်ဖိုးနှိမ့်ကျစွာဆက်ဆံနေသည့် အမှောင်ခေတ်တွင် ပတ်ဝန်းကျင်နှင့်ဆန့်ကျင်အံတုကာ အမျိုးသမီးအခွင့်အရေးဆိုင်ရာ လင်းရောင်ခြည်များ ထွန်းညှိပေးခဲ့သည်။ အမျိုးသမီးများသည် တန်ဖိုးထားထိုက်သည့် ရတနာများဖြစ်ကြောင်း၊ အမြတ်တနိုးထိန်းသိမ်းထားရမည့် ပန်းများဖြစ်ကြောင်းကို နည်းအမျိုးမျိုးဖြင့် သွန်သင်လမ်းညွှန်ပေးခဲ့သည်။ အမျိုးသမီးတို့၏ အခွင့်အရေးအစုံကို လုပ်ရပ်ဖြင့်တနည်း၊ ဟောပြောသွန်သင်ချက်များဖြင့်တဖုံ နည်းဗျူဟာပေါင်းစုံဖြင့် ကျေပြွန်စေခဲ့ခြင်းမှာ အားကျလောက်ပါသည်။

နဗီ (ﷺ) ၏ ကြိုးပမ်းမှုရလဒ်အနေဖြင့် လူ့သမိုင်းကအောက်ပါသမိုင်းဝင် မိခင်မွန်များကိုသိရှိခဲ့ရသည်။ အွမ္မသ်အတွက်မိမိပိုင်ဆိုင်မှုဟူသရွေ့ကို ပေးဆပ်စတေးခဲ့သည့် မိခင်မွန်ခဒီဂျာ၊ အွမ္မသ်ကို တန်ဖိုးမဖြတ်နိုင်သည့်ဟဒီးဆ်တော်များ လက်ဆင့်ကမ်းပေးခဲ့သည့် မိခင်မွန်အာအေရှာ၊ မိခင်မွန်အွမ္မေ့စလ်မာ၊ မိခင်မွန်အွမ္မေ့ဟဘီဘာတို့နှင့်အခြားသော ကြင်ယာတော်များ၊ အွမ္မသ်၏အမျိုးသမီးများအတွက် စံနမူကောင်းများ တည်ဆောက်ပေးခဲ့သော ကျေးဇူးရှင်ဖွာသွေ့မာသခင်မနှင့် သမီးတော်များ၊ သာသနာတော်အတွက် ပထမဆုံးအသက်ပေးဆပ်ခဲ့သည့် ကျေးဇူးရှင် စိုမိုင်ယဟ်သခင်မ၊ နဗီအပါးအမြဲခစားပြီး လိုအပ်သမျှအကူအညီ လက်တွဲညီစွာ ပေးဆပ်ခဲ့သည့် အွမ္မေ့စိုလိုင်းမ်သခင်မတို့မိသားစုနှင့်အခြားသော အမည်ဖော်ပြ

ခွင့်မရရှိသည့် မုဟာဂျိရ်အာန်စွာရ် ဆွာဟာဗီယာများ၊ သာဗေ့အီယာ များနှင့် ခေတ်အဆက်ဆက်ရှိ သမိုင်းဝင်အကျော်အမော်တို့၏ နောက် ကွယ်မှ ပန်းပျိုးလက်များသည် ရာသီများမည်မျှပင်ပြောင်းလဲစေကာမူ မေ့မရနိုင်သည့် သမိုင်းမှတ်တမ်းများပင်ဖြစ်ပါသည်။

**အမျိုးသမီးများနှင့်စပ်လျဉ်းသည့် ဟဒီးဆ်တော်များ**

ကိုယ်တော်မြတ် (ﷺ) သည်အမျိုးသမီးများအတွက် တရား ဒေသနာများဟောကြားရန် နေ့ရက်များသတ်မှတ်ပေးခဲ့ပြီး ၎င်းတို့နှင့် စပ်လျဉ်းသည့် ဟဒီးဆ်တော်ပေါင်းများစွာကို မိန့်ကြားတော်မူခဲ့သည်။ ခေတ်အဆက်ဆက်ရှိဟဒီးဆ်ပညာရှင်ကြီးများက ယင်းဟဒီးဆ်တော် များကို စနစ်တကျထိန်းသိမ်းပေးခဲ့ခြင်းမှာ ထူးထူးခြားခြားသမိုင်းမှတ် တိုင်တစ်ပါးပင် ဖြစ်သွားရသည်။

ယင်းကြိုးပမ်းမှုများအနက် ရှိုခ်အဗ္ဗဒုလ္လာဗင်န်ဆွာလေ့ဟ် ရေး သားပြုစုအပ်သော ဟဒီးဆ်တော်လေးဆယ်မှာ အလွန်ပင်အကျိုးရှိလှ သည်။ ထိုစာအုပ်ကို ကျွန်ုပ်၏ချစ်တပည့်တစ်ဦးဖြစ်သော မော်လာနာ မုဖ်သီ နုအ်မာန် (ကောင်ဆရီ၊ ဖွာဇွစ်လ်ဒါရွလ်အိုလူးမ်-ကရာချီ) က မြန်မာမွတ်စ်လင်မ်အမျိုးသမီးများအတွက် မြန်မာမှုပြုပေးခဲ့သည်၊ ၎င်း အရင်လည်း မွတ်စ်ဖ်သီဆပ်သည် များစွာသောစာအုပ်စာပေများကို ဘာသာပြန်ဆိုခြင်း၊ ရေးသားပြုစုခြင်းဖြင့် စာပေနယ်ပယ်တွင် နေရာ တစ်ခုတည်ဆောက်ထားပြီးဖြစ်သည်။ မွတ်ဖ်သီဆပ်၏ ကြိုးပမ်းမှု

အလုံးစုံကို အရှင်မြတ်အထူးလက်ခံသဘောတူတော်မူပါစေ၊ နောင်အနာဂတ်တွင်လည်း ဤထက်မကသော ကြိုးပမ်းမှုများဆက်လက်လုပ်ဆောင်ခွင့်ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

မွတ်ဖ်သီဆပ်၏ဘာသာပြန်ဆိုပုံသည် အလွန်ပင်ရိုးရှင်းလှပြီး လွယ်ကူစွာအကျိုးခံစားနိုင်စေမည့် ပုံစံမျိုးဖြစ်သည်။ ဟဒီးဆ်တော်များကိုလည်း ပူးတွဲဖော်ပြထားခြင်းကြောင့် ကျက်မှတ်လိုသူများအတွက် အလွန်ပင်လွယ်ကူစေမည်ဖြစ်သည်။

အညွှန်းများကိုပါပူးတွဲဖော်ပြထားသည့်အတွက် ခိုင်မာမှုတွင်လည်းသံသယမရှိပါ။

မြန်မာ့မြေမှ မွတ်စ်လင်မ်အမေ၊အစ်မများ ဤကျမ်းငယ်ကို ဖတ်ရှုလေ့လာ လိုက်နာကျင့်သုံးနိုင်ပါစေ၊ ဟုဆန္ဒပြုဆုမွန်ခြွေအပ်ပါသည်။

**မုဟမ္မဒ် အာစွင်မ်း(နဒ်ဝီ၊အဇ္ဇလ်ဟာစနီ၊မဇ္ဇာဟော့ရီ)**

**ဟစ်ဂျ်ရီ(၁၄၄၁)ခု၊ ဂျူမာဒတ်ဆ်ဆာနီ(၅)ရက်**

**ခရစ်နှစ်(၂၀၂၀)ခု၊ ဖေဖဝါရီ(၁)ရက်။ စနေနေ့**



الحمد لله تعالى هو الخالق جلّ في عُلاه، الحمد لله على ما أراده لعباده من عباده، وجعل لها سبب ''خلق الزجين الذكر والأنثى''، والصلاة والسلام على أشرف الأنبياء، صاحب السنة الغرّاء والمحجّة البيضاء التي فيها الهدى للرجال والنساء، صلى الله عليه وعلى صحابته النُّجباء، والتابعين ومن تبعهم فإحسان إلى يوم اللقاء. أما بعد.

အမျိုးသမီးဟူသည် လူ့ဘောင်မှ မည်သို့မျှ ဖယ်ထုတ်၍မရ သကဲ့သို့ လူ့ဘောင်၏အရင်းမူလလည်းဖြစ်သည်။ ထိုအမျိုး သမီးများ သာလျှင် ရစူလ်တမန်တော်အပေါင်းနှင့် နဗီတမန်တော်အပေါင်းတို့၏ မိခင်မွန်များဖြစ်ကြပြီး အစ္စလာမ်သာသနာ တော်တွင် အဓိကကျသော အခန်းကဏ္ဍတစ်ခုဖြစ်သည်။

သို့သာမက နောင်လာနောက်သားများအတွက် အသင့် မွမ်းမံထားသည့် ကျောင်းဆောင်တစ်ဆောင်ဖြစ်သည်။ သို့ဖြစ်သောကြောင့် အစ္စလာမ် သာသနာသည် အမျိုးသမီးများအား အမှောင်ခေတ်မှ လူသားများပြုခဲ့ သည့် ညှဉ်းပမ်းမှုများနှင့် ဆန့်ကျင်ပြီး ၎င်းတို့အား အထူးအရေးပေး ကာ အလွန်ကောင်း မွန်သည့် ထိန်းသိမ်းမှုဖြင့် ထိန်းသိမ်းစောင့်ရှောက် ခဲ့ပေသည်။

ထို့ကြောင့်ပင် တမန်တော်မြတ် (ﷺ) ၏ ဟဒီးဆ်တော်များ တွင် အမျိုးသမီးများသည် ကိုယ်တော်မြတ် (ﷺ) မှကြားနာခဲ့ သည့်

ဟဒီးဆ်တော်များကိုလည်း တွေ့ရပေသည်။ ဥပမာ– မွတ်အ်မင်န်တို့၏ မိခင်မွန်များဖြစ်သည့် ကိုယ်တော်မြတ် (ﷺ) ၏ကြင်ယာတော်များ (သို့) ကိုယ်တော်မြတ် (ﷺ) ထံအခစားဝင်ကြသည့် ဆွဟာဗီအမျိုးသမီးများ (သို့) ကိုယ်တော့်အား ဖွက်သ်ဝါ မေးမြန်းပြီး ပြည့်ဝသည့် အဖြေကို ရရှိသွားသည့် ဆွဟာဗီအမျိုးသမီးများ စသည်တို့ဖြစ်ကြပေသည်။

ဤကျမ်းငယ်သည် အဆိုပါဟဒီးဆ်တော်များမှ ဟဒီးဆ်တော် (၄၀) ကို မြန်မာဘာသာသို့ ပြန်ဆိုထားသည့်ကျမ်းငယ်ဖြစ်ပါသည်။ အလ္လာဟ်ရှင် ကျွန်ုပ်နှင့်တကွ ဤဟဒီးဆ်တော်များကို ရွေးချယ်တင်ပြခဲ့သည့် ရှိုင်ခ်ဆွာလေ့ဟ်ဗင်န်အဗ်ဒွလ်လာ ဆရာသခင်ကြီးအားလည်းကောင်း၊ ထို့အတူ ကျွန်ုပ်တို့၏ ဆရာသခင်ကျေးဇူးရှင်ကြီးများနှင့် အီမန်ရှင်အမျိုးသား၊ အမျိုးသမီးများအားလုံး ဒွန္နယာ၊ အာခိရသ် နှစ်ဌာနစလုံးတွင် အရှင်မြတ်ဘက်တော်မှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိရန် အကြောင်းညီညွတ်စေတော်မူပါစေ။

ဆုမွန်ဒိုအားများကိုမျှော်လင့်လျှက် ....

**မောင်လဝီ မိုဟမ္မဒ် နိုအ်မာန်**

(ကောင်စရီ၊ ဖာဇစ်လ် ဒါရွလ်လ်အိုလူးမ် ကရာချီ)

## (၁) မိဘအလျှင်လူမမယ်သားသမီးများ ကွယ်လွန်သေဆုံးခဲ့လျှင် မိဘရရှိမည့် အကျိုးကျေးဇူး

عَنْ أَبِي سَعِيدٍ الخُدْرِيِّ قَالَتِ النِّسَاءُ لِلنَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: غَلَبَنَا عَلَيْكَ الرِّجَالُ، فَاجْعَلْ لَنَا يَوْمًا مِنْ نَفْسِكَ، فَوَعَدَهُنَّ يَوْمًا لَقِيَهُنَّ فِيهِ، فَوَعَظَهُنَّ وَأَمَرَهُنَّ، فَكَانَ فِيمَا قَالَ لَهُنَّ: «مَا مِنْكُنَّ امْرَأَةٌ تُقَدِّمُ ثَلاَثَةً مِنْ وَلَدِهَا، إِلَّا كَانَ لَهَا حِجَابًا مِنَ النَّارِ» فَقَالَتِ امْرَأَةٌ: وَاثْنَتَيْنِ؟ فَقَالَ: «وَاثْنَتَيْنِ». (متفق عليه).

ဟဇရတ်အဗူစအီးဒ်ခွဒ်ရီ (ﷺ) သခင်ဆင့်ပြန်ခဲ့သည်မှာ အမျိုးသမီးများသည် တမန်တော်မြတ် (ﷺ) ထံတော်ပါးတွင် လျှောက်ထားကြသည်။ အို-(ကိုယ်တော်) ကိုယ်တော့်အပါးတော်တွင် အမျိုးသားများသည် ကျွန်မတို့ထက်သာပို၍ ဝင်ရောက်ခစားခွင့်ရရှိကြသည်။ သို့ဖြစ်ရာ ကိုယ့်တော်ဘက်မှ ကျွန်မတို့အတွက်လည်း ရက်တစ်ရက် သတ်မှတ်ပေးသနားတော်မူပါ။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) သည် ထိုသူမများအတွက် နေ့ရက်တစ်ရက် သတ်မှတ်ပေးတော်မူပြီး ထိုနေ့တွင် ၎င်းတို့နှင့်တွေ့ဆုံ၍ တရားရေအေးတိုက်ကျွေးတော်မူသည်။ မိန့်မှာလိုသည်များကိုလည်း မိန့်ကြားတော်မူပေသည်။ ထိုသူမများအား ကိုယ်တော်မြတ် (ﷺ) ၏မိန့်ကြားချက်တစ်ရပ်မှာ ''အသင်မတို့၏အလျှင် အသင်မတို့၏ သားသမီးများအနက်မှ အရွယ်မရောက်သေး

သောကလေးငယ် (၃) ဦးကွယ်လွန်သေဆုံးခဲ့ပါလျှင် ၎င်းကလေးငယ်များသည် ထိုသူမအဖို့ ဂျဟန္နမ်အပါယ်ငရဲဘုံမှ အကာအကွယ်ဖြစ်သွားပေသည်။ ထိုစဉ် အမျိုးသမီးတစ်ဦးက မေးမြန်းလျှောက် ထားသည်မှာ (သားသမီးများမှ) နှစ်ဦးကွယ်လွန်သေဆုံးလျှင်လည်း ထိုအကျိုးကျေးဇူးကိုရရှိမည်လော။ ထိုအခါကိုယ်တော်မြတ် (ﷺ) သည် နှစ်ဦးကွယ်လွန်သေဆုံးလျှင်လည်း အထက်ပါအကျိုးကျေးဇူးကို ရရှိပေမည်ဟု မိန့်ရွှေတော် မူခဲ့ပေသည်။

## (၂) အမျိုးသမီးတစ်ဦးသည် ရောဂါသွေးဆင်းလျှင် နမားဇ် ဝတ်ပြုမှုကို မစွန့်လွှတ်ရပေ

عَنْ عَائِشَةَ قَالَتْ: جَاءَتْ فَاطِمَةُ بِنْتُ أَبِي حُبَيْشٍ إِلَى النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ فَقَالَتْ: يَا رَسُولَ اللَّهِ إِنِّي امْرَأَةٌ أُسْتَحَاضُ فَلاَ أَطْهُرُ أَفَأَدَعُ الصَّلاَةَ؟ فَقَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «لاَ، إِنَّمَا ذَلِكِ عِرْقٌ، وَلَيْسَ بِحَيْضٍ، فَإِذَا أَقْبَلَتْ حَيْضَتُكِ فَدَعِي الصَّلاَةَ، وَإِذَا أَدْبَرَتْ فَاغْسِلِي عَنْكِ الدَّمَ ثُمَّ صَلِّي». (متفق عليه).

ဟဇရတ်အာအေရှဟ် (رضي الله عنها) သခင်မမှ ဆင့်ပြန်ချက်တစ်ရပ်လာရှိသည်။ အမိန့်ရှိသည်မှာ အဗူဟိုဗိုင်း၏သမီး ဖွာသွေမဟ်သည် တမန်တော်မြတ်ထံ အခစားဝင်းပြီး လျှောက်ထားသည်မှာ အို-

အလ္လာဟ်အရှင်မြတ်၏ရစူလ် ကျွန်တော်မျိုးမသည် ရောဂါသွေးဆင်း နေသည့်အတွက် သန့်ပြန်မှုမရယူနိုင်ပါ။ သို့ဖြစ်ပါ၍ ကျွန်တော်မျိုးမ သည် နမားဇ်ဝတ်ပြုမှုကိုစွန့်လွှတ်ရမည်လော။ ထိုအခါ ကိုယ်တော် မြတ် (ﷺ) မိန့်တော်မူသည်မှာ အသင်မသည် နမားဇ်ဝတ်ပြုမှုကို မစွန့် လွှတ်ပါနှင့်၊ အမှန်မှာ ထိုအရာသည် ခန္ဓာကိုယ်မှ သွေးစီးဆင်းခြင်း ဖြစ်သည်။ ဓမ္မတာသွေးမဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်မသည် ဓမ္မတာ သွေးလာပါက နမားဇ်ဝတ်မပြုဘဲနေပြီး သွေးရပ်သွားသည့်အခါ မှသာ ရေးချိုးသန့်စင်၍ နမားဇ်ကို ပြန်လည်ဆောက်တည်ပါ။

## (၃) ကိုယ်တော်မြတ် (ﷺ) ၏ တရားဟောပလ္လင်ကို ဆွဟာဗီ အမျိုးသမီးတစ်ဦးပြုလုပ်ပေးခဲ့ခြင်းအကြောင်း

عَنْ جَابِرِ بْنِ عَبْدِ اللَّهِ: أَنَّ امْرَأَةً قَالَتْ: يَا رَسُولَ اللَّهِ أَلاَ أَجْعَلُ لَكَ شَيْئًا تَقْعُدُ عَلَيْهِ، فَإِنَّ لِي غُلاَمًا نَجَّارًا؟ قَالَ: «إِنْ شِئْتِ» فَعَمِلَتِ المِنْبَرَ.

(رواه البخاري).

ဟဇရသ်ဂျာဗစ်ရ် (رضي الله عنه) သခင်ဆင့်ပြန်ခဲ့သည်။ အမျိုးသမီးတစ်ဦး သည် ကိုယ်တော်မြတ် (ﷺ) အားလျှောက်ထား သည် ... အို- အလ္လာဟ် အရှင်မြတ်၏ ရစူလ် ကျွန်တော်မျိုးမတွင် လက်သမားလူငယ် တစ်ဦးရှိ သည်ဖြစ်ရာ ကိုယ်တော်စံမြန်းတော်မူရန် တစ်စုံတစ်ရာ ပြုလုပ်ပေး ရမည်လော။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) က အသင်မပြုလုပ်ရန်

လိုလားပါလျှင် ပြုလုပ်နိုင်ပေသည်ဟုမိန့်တော်မူရာ ထိုသူမသည် မင်န်ဗရ် (တရားဟောပုလ္လင်) ပြုလုပ်ပေးခဲ့သည်။

## (၄) ဗလီဝတ်ကျောင်းတော်ကို သန့်ပြန့်စွာထားသော အမျိုးသမီးတစ်ဦး၏အဆင့်အတန်း

عَنْ أَبِي هُرَيْرَةَ: أَنَّ رَجُلًا أَسْوَدَ أَوِ امْرَأَةً سَوْدَاءَ كَانَ يَقُمُّ المَسْجِدَ فَمَاتَ، فَسَأَلَ النَّبِيُّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ عَنْهُ، فَقَالُوا: مَاتَ، قَالَ: «أَفَلاَ كُنْتُمْ آذَنْتُمُونِي بِهِ دُلُّونِي عَلَى قَبْرِهِ - أَوْ قَالَ قَبْرِهَا - فَأَتَى قَبْرَهَا فَصَلَّى عَلَيْهَا». (متفق عليه).

ဟဇရသ် အဗူဟိုရိုင်ရဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ အသားအရေမည်းသောသူ (သို့) အသားအရေမည်းသောသူမ တစ်ဦးသည် ဗလီဝတ်ကျောင်းတော်တွင် တံမျက်စည်းလှဲကျင်း ပေးလေ့ရှိသည်။ ရုတ်တရက် တစ်ရက်တွင် ထိုသူမသည် ကွယ်လွန်သေဆုံးခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) သည် ထိုသူမနှင့် စပ်လျဉ်း၍ မေးမြန်းတော်မူရာ လူတို့က ထိုသူမကွယ်လွန် သေဆုံးခဲ့ကြောင်း ဖြေကြားကြသည်။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အသင်တို့သည် ထိုသူမနှင့် စပ်လျဉ်း၍ ငါကိုယ်တော်အား အဘယ့်ကြောင့် အသိမပေးခဲ့ကြသနည်း။ ထိုသူမ၏ ကဗရ်ကို ငါ့အားပြသပေးပါဟု မိန့်တော်မူ၍ ၎င်းသူမ

၏ ကဗရ်သို့ကြွမြန်းတော်မူပြီး (ဂျနာဇာ) နမားဇ် ဖတ်ပေး တော်မူခဲ့ပေသည်။

## (၅) ချောမောလှပပြီးအဆင့်အတန်းရှိသည့် အမျိုးသမီးတစ်ဦးသည် ဒုစရိုက်ကျူးလွန်ရန်ဖိတ်ခေါ်သော်လည်း ထိုအပြစ်မှရှောင်ကြဉ်သူ၏အဆင့်အတန်း

عَنْ أَبِي هُرَيْرَةَ، عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: " سَبْعَةٌ يُظِلُّهُمُ اللَّهُ فِي ظِلِّهِ، يَوْمَ لاَ ظِلَّ إِلَّا ظِلُّهُ: الإِمَامُ العَادِلُ، وَشَابٌّ نَشَأَ فِي عِبَادَةِ رَبِّهِ، وَرَجُلٌ قَلْبُهُ مُعَلَّقٌ فِي المَسَاجِدِ، وَرَجُلاَنِ تَحَابَّا فِي اللَّهِ اجْتَمَعَا عَلَيْهِ وَتَفَرَّقَا عَلَيْهِ، وَرَجُلٌ طَلَبَتْهُ امْرَأَةٌ ذَاتُ مَنْصِبٍ وَجَمَالٍ، فَقَالَ: إِنِّي أَخَافُ اللَّهَ، وَرَجُلٌ تَصَدَّقَ، أَخْفَى حَتَّى لاَ تَعْلَمَ شِمَالُهُ مَا تُنْفِقُ يَمِينُهُ، وَرَجُلٌ ذَكَرَ اللَّهَ خَالِيًا فَفَاضَتْ عَيْنَاهُ ". (متفق عليه).

ဟဇရတ်အဗူဟိုရိုင်ရာဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အလ္လာဟ်အရှင်မြတ်၏ (အရ်ရှ်တော်၏) အရိပ်အာဝါသမှလွဲ၍ အခြားမည်သည့် အရိပ်အာဝါသမှ မရှိသည့် (ကေယာမသ်) နေ့တွင် အလ္လာဟ် အရှင်မြတ်သည် ပုဂ္ဂိုလ် (၇) အား မိမိ၏အရိပ်အာဝါသ၌ ခိုလှုံခွင့်ချီးမြှင့်တော်မူမည်။ ၎င်းတို့မှာ (၁) တရားမျှတမှုရှိသော ခေါင်းဆောင်၊ (၂) မိမိအရှင်သခင်၏ ခဝပ်ဆည်း

ကပ်မှုတွင် ဘဝသက်တမ်း ကုန်ဆုံးခဲ့သောလုလင်ပျို၊ (၃) ဗလီဝတ်ကျောင်းတော်အား စိတ်စွဲလန်းမှုရှိသောသူ၊ (၄) အလ္လာဟ်အရှင်မြတ် ကျေနပ်နှစ်သက်စေရန်အလို့ငှာ အချစ်ထားသောပုဂ္ဂိုလ်နှစ်ဦး၊ ၎င်းတို့မှာ အရှင်မြတ်နှစ်သက်စေရန် တစ်ဦးနှင့်တစ်ဦး ဆုံဆည်း ကြပြီး ထို့အတွက်သာ တစ်ဦးနှင့်တစ်ဦးခွဲခွာကြသည်၊ (၅) အကြင်ပုဂ္ဂိုလ်ဖြစ်သည် ၎င်းအား ချောမောလှပပြီး အဆင့် အတန်းရှိသည့် အမျိုးသမီးတစ်ဦးသည် (ဂိုနာဟ်) ဒုစရိုက် ကျူးလွန်ရန် တောင်းဆိုခဲ့သည်။ သို့သော်လည်း ထိုသူသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါသည်ဟု ပြောဆိုခဲ့ပေ သည်၊ (၆) တိတ်တဆိတ်အလှူဒါနပြုသောသူ မည်မျှတိုင်မူ ၎င်း၏ညာဘက်လက်မှ သုံးစွဲလှူဒါန်းသည်ကိုဘယ်ဘက်လက်ပင် မသိရှိရပေ။ (အလိုသဘောမှာ လူမသိအောင် တိတ်တဆိတ်ပေးကမ်းလှူဒါန်းခြင်းကို ရည်ညွှန်းဖော် ဆောင် ခြင်းဖြစ်သည်။) (၇) အကြင်ပုဂ္ဂိုလ်ပင်ဖြစ်သည် ၎င်းသည် တစ်ကိုယ်တည်းရှိစဉ်အချိန်တွင် အလ္လာဟ်အရှင်မြတ်အား သတိရတသပြီး မျက်လုံးအစုံမှမျက်ရည်များ ယိုစီးသောသူတို့ ဖြစ်ပေသည်။

## (၆) အမျိုးသမီးတစ်ဦးသည် ဟဂ်ျပြုရန်ရည်ရွယ်ပြီး ဓမ္မတာသွေးဆင်းခဲ့လျှင် မည်သည်ကို ပြုမူဆောင်ရွက်ရမည်နည်း

عَنْ عَائِشَةَ تَقُولُ: خَرَجْنَا لاَ نَرَى إِلَّا الحَجَّ، فَلَمَّا كُنَّا بِسَرِفَ حِضْتُ، فَدَخَلَ عَلَيَّ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ وَأَنَا أَبْكِي، قَالَ: «مَا لَكِ

أَنُفِسْتِ؟». قُلْتُ: نَعَمْ، قَالَ: «إِنَّ هَذَا أَمْرٌ كَتَبَهُ اللَّهُ عَلَى بَنَاتِ آدَمَ، فَاقْضِي مَا يَقْضِي الحَاجُّ، غَيْرَ أَنْ لاَ تَطُوفِي بِالْبَيْتِ» قَالَتْ: وَضَحَّى رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ عَنْ نِسَائِهِ بِالْبَقَرِ. (متفق عليه).

ဟဇရသ် အာအေရှာဟ် (ﷺ) သခင်မ ဆင့်ပြန်ခဲ့သည်။ အမိန့်ရှိသည်မှာ ကျွန်မတို့သည် ဟဂျ်ပြုရန်ရည်ရွယ်လျက် ထွက်ခဲ့ကြသည်။ ထိုသို့ဖြင့် (စရစ်ဖ်) ဆိုသည့်နေရာသို့ ရောက် သည့်အခါ ကျွန်မသည် ဓမ္မတာသွေးဆင်းခဲ့သည်။ ထိုစဉ် ကိုယ်တော်မြတ် (ﷺ) သည် ကျွန်မ ထံဝင်ရောက်ခဲ့သည်။ ထိုအချိန်တွင် ကျွန်မသည်ငိုယိုနေသည်။ ထိုအခါ ကိုယ်တော်သည် (ကျွန်မအား) အသင်မ ဓမ္မတာသွေးဆင်းပြီလားဟု မေးမြန်းခဲ့ရာ ကျွန်မသည်ဟုတ်မှန်ကြောင်း လျှောက်ထားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည် ဤ(ဓမ္မတာသွေးဆင်းခြင်း)သည် အာဒမ်၏သမီးများအပေါ်တွင် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားသည့် ကိစ္စရပ်တစ်ရပ်ဖြစ်သည်။ သို့ဖြစ်ရာအသင်မသည် ဟဂျ်ပြုသူတစ်ဦး ပြုမူရသည့်ကိစ္စရပ်တို့ကို ပြုမူဆောင်ရွက်ပါ။ သို့သော် ကအ်ဗဟ်ကျောင်းတော်ကို သွဝါးဖ်မပြုပါနှင့်။

ကိုယ်တော်မြတ် (ﷺ) သည်မိမိ၏ကြင်ယာတော်များဘက်မှ နွားတစ်ကောင်ကို ကုရ်ဗာနီပြုပေးတော်မူခဲ့ပေသည်။

## (၇) ဂျဟန္နမ်အပ္ပါယ်ငရဲသို့ လားရမည့်အဖွဲ့နှစ်ဖွဲ့

عَنْ أَبِي هُرَيْرَةَ، قَالَ: قَالَ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «صِنْفَانِ مِنْ أَهْلِ النَّارِ لَمْ أَرَهُمَا، قَوْمٌ مَعَهُمْ سِيَاطٌ كَأَذْنَابِ الْبَقَرِ يَضْرِبُونَ بِهَا النَّاسَ، وَنِسَاءٌ كَاسِيَاتٌ عَارِيَاتٌ مُمِيلَاتٌ مَائِلَاتٌ، رُءُوسُهُنَّ كَأَسْنِمَةِ الْبُخْتِ الْمَائِلَةِ، لَا يَدْخُلْنَ الْجَنَّةَ، وَلَا يَجِدْنَ رِيحَهَا، وَإِنَّ رِيحَهَا لَيُوجَدُ مِنْ مَسِيرَةِ كَذَا وَكَذَا». (متفق عليه).

ဟဇရသ် အဗူဟိုရိုင်ရာဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ်မိန့်တော်မူသည်မှာ အဖွဲ့နှစ်ဖွဲ့သည် ဂျဟန္နမ်အပ္ပါယ်ငရဲသားများမှဖြစ်ကြသည်။ (သို့သော်လည်း) ကိုယ်တော်သည် (မိမိ၏သက်တမ်းတွင်) ထိုအဖွဲ့နှစ်ဖွဲ့ကိုမတွေ့မြင်ခဲ့ ပေ။

တစ်ဖွဲ့မှာထိုအုပ်စုဖြစ်သည်။ ၎င်းတို့တွင်နွားအမြီးများနှင့်အလားတူသည့် ကြာပွတ်(တုတ်)များအတူတကွရှိပြီး ထိုအရာများဖြင့် လူတို့အားရိုက်နှက်ကြသည်။

ဒုတိယတစ်ဖွဲ့မှာ အကြင်အမျိုးသမီးများပင်ဖြစ်သည်။ ထိုသူမများသည် အဝတ်အထည်များကို ဝတ်ဆင်ထားသော်လည်း (အဝတ်၏ပါးလွှာမှုကြောင့် သို့မဟုတ် တိုတောင်းမှုကြောင့် သို့မဟုတ် တင်းကြပ်မှုကြောင့်) အဝတ်မဝတ်သူမများအလားဖြစ်ကြသည်။ ဤသို့ဖြင့် ထိုသူမများသည် အခြားသူများအား မိမိတို့ဘက်သို့ ယိမ်းယိုင်စေပြီး မိမိတို့ကိုယ်တိုင်လည်း (ဂိုနာဟ်) ဒုစရိုက်များဘက်သို့ ယိမ်းယိုင်သောသူမများဖြစ်ကြသည်။ ၎င်းတို့၏ဦးခေါင်းများမှ ဆံထုံးများကို ကြီးမား

သည့်အမူအဟန်ပြုသောကြောင့်) ကုလားအုတ်၏ဘို့များသဏ္ဍာန်ဖြစ်ပြီး အခြားသူများကိုစိတ်ဝင်စားစေသည်။ ထိုသူမများသည် ဂျန္နသ်သို့ဝင်ရောက်ရမည်မဟုတ်ပေ။ ထိုးနည်းတူဂျန္နသ်၏ အမွှေးရနံ့ကိုလည်း ရရှိကြမည်မဟုတ်ပေ။ အမှန်စင်စစ် ဂျန္နသ်၏အမွှေးရနံ့သည် ဤမျှခန့် အကွာအဝေးမှပင်ရရှိပေသည်ဟုကိုယ်တော်သည် မိုင်အကွာအဝေးကို မိန့်တော်မူခဲ့သည်။

## (၈) ကွယ်လွန်သေဆုံးသူအတွက် (၃) ရက်ထက်သာပို၍ ဝမ်းနည်းကြေကွဲမှုကို မထုတ်ဖော်ရပေ

عَنْ عَائِشَةَ، عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: " لَا يَحِلُّ لِامْرَأَةٍ تُؤْمِنُ بِاللهِ وَالْيَوْمِ الْآخِرِ، أَنْ تُحِدَّ عَلَى مَيِّتٍ فَوْقَ ثَلَاثٍ، إِلَّا عَلَى زَوْجِهَا.

(رواه مسلم).

ဟဇရသ် အာအေရှာဟ် (ﷺ) သခင်မဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အလ္လာဟ်အရှင်မြတ်နှင့် အာခေရသ် တမလွန်နေ့ရက်ကို ယုံကြည်သူအဖို့ ကွယ်လွန်သေဆုံးသူအတွက် သုံးရက်ထက်သာပို၍ အလှအပမဆင်ခြယ်ဘဲနေခြင်းမပိုင်ပေ။ သို့သော် (ကွယ်လွန်သေဆုံးသူသည်) မိမိ၏ခင်ပွန်းသည်ဖြစ်လျှင် ထိုသို့နေခြင်း ပိုင်သည်။

## (၉) အမှန်စင်စစ်သည်းခံမြဲသိပ်ခြင်းဟူသည် ရုတ်တရက် ကြုံကြိုက်လာသည့်ဒုက္ခတွင်ဖြစ်သည်

عَنْ أَنَسِ بْنِ مَالِكٍ رَضِيَ اللَّهُ عَنْهُ، قَالَ: مَرَّ النَّبِيُّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ بِامْرَأَةٍ تَبْكِي عِنْدَ قَبْرٍ، فَقَالَ: «اتَّقِي اللَّهَ وَاصْبِرِي» قَالَتْ: إِلَيْكَ عَنِّي، فَإِنَّكَ لَمْ تُصَبْ بِمُصِيبَتِي، وَلَمْ تَعْرِفْهُ، فَقِيلَ لَهَا: إِنَّهُ النَّبِيُّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، فَأَتَتْ بَابَ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، فَلَمْ تَجِدْ عِنْدَهُ بَوَّابِينَ، فَقَالَتْ: لَمْ أَعْرِفْكَ، فَقَالَ: «إِنَّمَا الصَّبْرُ عِنْدَ الصَّدْمَةِ الأُولَى». (متفق عليه).

ဟဇရတ် အနက်စ်ဗင်န်မာလစ်က် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) သည်ကဗရ်တစ်ခုတွင် ငိုယိုနေသည့် အမျိုးသမီး တစ်ဦး၏ အနီးမှဖြတ်သွားတော်မူသည်။ ထိုအခါကိုယ်တော်သည် ၎င်း သူမအားမိန့်တော်မူသည်မှာ အသင်မသည် အလ္လာဟ်အရှင်မြတ်အား အကြောက်တရားထားပါလေ။ ၎င်းနောက်သည်းခံမြဲသိပ်ပါ။ ထိုအခါ ထိုသူမကပြောဆိုသည်မှာ အသင်သည် ကျွန်မနှင့်ဝေးစွာနေပါ။ အကြောင်းမှာ အသင်သည် ကျွန်မခံစားနေရသည့်ဒုက္ခကို မခံစားခဲ့ဖူး ပေ။ ထို့ကြောင့်ကျွန်မ၏ဒုက္ခကိုလည်းအသင်မသိပေ။

ထိုအခါ တစ်ဦးသောသူကသူမအား ထိုပြောဆိုသူမှာ နဗီတမန် တော်မြတ် (ﷺ) ဖြစ်ကြောင်းပြောပြရာ ထိုသူမသည် ကိုယ်တော်၏ တံခါးဝတွင်လာရောက်ခဲ့သည်။ ထိုအချိန်တွင် ကိုယ့်တော်ထံတွင် ကိုယ်တော်၏ တံခါးစောင့်များကိုမတွေ့ခဲ့ရပေ။ ထိုအခါသူမသည် (ကိုယ်တော့်အား) လျှောက်ထားသည်မှာ အို-ကိုယ်တော် ကျွန်တော်

မျိုးမသည် ကိုယ်တော်မှန်းမသိရှိခဲ့ပေ။ ထိုအခါကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အမှန်စင်စစ် သည်းခံမြဲသိပ်ခြင်းဟူသည် ရုတ်တရက်ကြုံကြိုက်လာသည့်ဒုက္ခတွင်ဖြစ်သည်။

## (၁၀) ဒုက္ခရောက်သည့်အခါ အော်ကြီးဟစ်ကျယ် ငိုယိုမြည်တမ်းပြီး အဝတ်အစားများကို စုတ်ဖြဲခြင်း မပြုရပေ

عَنْ أَبِيْ بُرْدَةَ بْنُ أَبِي مُوسَى رَضِيَ اللَّهُ عَنْهُ، قَالَ: وَجِعَ أَبُو مُوسَى وَجَعًا شَدِيدًا، فَغُشِيَ عَلَيْهِ وَرَأْسُهُ فِي حِجْرِ امْرَأَةٍ مِنْ أَهْلِهِ، فَلَمْ يَسْتَطِعْ أَنْ يَرُدَّ عَلَيْهَا شَيْئًا، فَلَمَّا أَفَاقَ، قَالَ: أَنَا بَرِيءٌ مِمَّنْ بَرِئَ مِنْهُ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، إِنَّ رَسُولَ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «بَرِئَ مِنَ الصَّالِقَةِ وَالحَالِقَةِ وَالشَّاقَّةِ». (رواه مسلم).

ဟဇရသ်အဗူဗွရ်ဒါဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ အမိန့်ရှိသည်မှာ ဟဇရသ်အဗူမူစာ (ﷺ) သခင်သည် အလွန်ပြင်းထန်သော အနာဒဏ်ရာရခဲ့သည်ဖြစ်ရာ သခင်ကြီးသည်မေ့မျောခဲ့ပေသည်။ သခင်ကြီး၏ဦးခေါင်းသည် မိမိ၏မိသားစုဝင်များမှ သမီးတစ်ဦး၏ရင်ခွင်တွင် ရှိနေခဲ့သည်။ သခင်ကြီးသည် (မိမိခံစားရသည့်ဝေဒနာကြောင့်) ထိုသူမအား တစ်စုံတစ်ရာမျှ မတုံ့ပြန်နိုင်ပေ။ ဤသို့ဖြင့်သခင်ကြီးသည် သတိရလာသောအခါမိန့်သည်မှာ ငါသည်တမန်တော်မြတ် (ﷺ) လွတ်ကင်းမှုရယူခဲ့သည့်အရာများမှ လွတ်ကင်းမှုရယူပါသည်။ အမှန်စင်စစ် ကိုယ်တော်မြတ် (ﷺ) သည်ဒုက္ခရောက်သည့်အခါ အော်ကြီးဟစ်ကျယ်

ငိုယိုမြည်တမ်းသူမများမှလည်းကောင်း၊ ထို့အတူအဝတ်အစားများကို စုတ်ဖြဲသောသူမများမှ လွတ်ကင်းမှုရယူခဲ့ပေသည်။ (သဘောမှာ ထို အပြုအမူများနှင့် ကိုယ်တော်သည်မည်သို့မျှ မပတ်သတ်ကြောင်း ထုတ် ဖော်ပြောဆိုတော်မူခဲ့ပေသည်။

## (၁၁) ဇေနာမှုကျူးလွန်သူအဖို့ ကုရ်အာန်ကျမ်းတော်မြတ်နှင့် သောင်ရားသ်ကျမ်းလာအမိန့်

عَنْ عَبْدِ اللَّهِ بْنِ عُمَرَ رَضِيَ اللَّهُ عَنْهُمَا، أَنَّ اليَهُودَ جَاءُوا إِلَى رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، فَذَكَرُوا لَهُ أَنَّ رَجُلًا مِنْهُمْ وَامْرَأَةً زَنَيَا، فَقَالَ لَهُمْ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «مَا تَجِدُونَ فِي التَّوْرَاةِ فِي شَأْنِ الرَّجْمِ». فَقَالُوا: نَفْضَحُهُمْ وَيُجْلَدُونَ، فَقَالَ عَبْدُ اللَّهِ بْنُ سَلاَمٍ: كَذَبْتُمْ إِنَّ فِيهَا الرَّجْمَ فَأَتَوْا بِالتَّوْرَاةِ فَنَشَرُوهَا، فَوَضَعَ أَحَدُهُمْ يَدَهُ عَلَى آيَةِ الرَّجْمِ، فَقَرَأَ مَا قَبْلَهَا وَمَا بَعْدَهَا، فَقَالَ لَهُ عَبْدُ اللَّهِ بْنُ سَلاَمٍ: ارْفَعْ يَدَكَ، فَرَفَعَ يَدَهُ فَإِذَا فِيهَا آيَةُ الرَّجْمِ، فَقَالُوا: صَدَقَ يَا مُحَمَّدُ، فِيهَا آيَةُ الرَّجْمِ، فَأَمَرَ بِهِمَا رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ فَرُجِمَا، قَالَ عَبْدُ اللَّهِ: فَرَأَيْتُ الرَّجُلَ يَجْنَأُ عَلَى المَرْأَةِ يَقِيهَا الحِجَارَةَ ". (متفق عليه).

ဟဇရသ်အဗ်ဒွလ်လာဗင်န် အိုမာရ် (رضي الله عنهما) ဆင့်ပြန်ခဲ့သည်။ ယဟူဒီ များသည် ကိုယ်တော် (ﷺ) ထံရောက်ရှိလာပြီး လျှောက်ထား ကြသည်မှာ ၎င်းတို့မျိုးနွယ်မှ အမျိုးသားတစ်ဦးနှင့် အမျိုးသမီးတစ်ဦး တို့သည် ဇေနာ(ကာမေသုမစ္ဆာရကံ) ကျူးလွန်ခဲ့ကြသည်။ ထိုအခါ

ကိုယ်တော်မြတ် (ﷺ) သည် ၎င်းတို့အားမိန့်တော်မူသည်မှာ အသင်တို့သည် ရဂျမ်(ဝါ)ဇေနာ ကျူးလွန်မှုကြောင့် ခဲဖြင့်ပေါက်ပြီး အဆုံးစီရင်ရသည့်ကိစ္စနှင့်စပ်လျဉ်း၍ သောင်ရားသ်ကျမ်းတော်တွင် မည်သို့တွေ့ရှိရသနည်း။ ထိုအခါ၎င်းတို့က ဖြေကြားကြသည်မှာကျွန်ုပ်တို့သည် ထိုအမှုကိုကျူးလွန်သူတို့အားသေးသိမ်စေပြီးကြိမ်ဒဏ်ပေးကြပါသည်။ ထိုအခါ ဟဇရသ်အဗ်လားဗင်နိစလားမ်က ပြောဆိုသည်မှာ အသင်တို့သည် မုသားပြောဆိုခြင်းဖြစ်သည်။ အမှန်စင်စစ် သောင်ရားသ်ကျမ်းတွင် ဇေနာကျူးလွန်သူအား ခဲဖြင့်ပေါက်ပြီး အဆုံးစီရင်ရသည့်အကြောင်း လာရှိထားပေသည်။ သို့ဖြစ်ပေရာ၎င်းတို့သည်သောင်ရားသ်ကျမ်းကို ယူဆောင်လာပြီး ကျမ်းစာအုပ်ကိုဖွင့်လိုက်ကြသည်။ ပြီးနောက် ထိုသူများအနက် ပုဂ္ဂိုလ်တစ်ဦးသည် မိမိ၏လက်အားရဂျမ်၏အာယသ်ပေါ်တွင်တင်၍ အာယသ်တော်၏ အရှေ့အနောက်ကိုသာဖတ်ရွတ်ပေသည်။ ထိုအခါဟဇရသ်အဗ်လားဗင်နိစလားမ်သခင်က ၎င်းအားပြောသည်မှာ အသင်၏လက်ကိုမလိုက်ပါ။ ၎င်းသည် မိမိ၏လက်ကို မယူလိုက်သည့်အခါ ကျမ်းတော်တွင် ရဂျမ်၏အာယသ်တော်ပါရှိနေသည်။ ထိုအခါ၎င်းတို့က ပြောကြသည်မှာ .... အို–မိုဟမ္မဒ် မှန်ပါသည်။ သောင်ရားသ်ကျမ်းတွင် ရဂျမ်၏အာယသ်တော်ပါရှိပါသည်။ သို့ဖြစ် ပေရာ ကိုယ်တော်မြတ် (ﷺ) သည် ဇေနာအမှုကျူးလွန်သူနှစ်ဦးအား ခဲဖြင့်ပေါက်၍အဆုံးစီရင်ရန် အမိန့်ပေးတော်မူပေသည်။ ဟဇရသ် အဗ်ဒွလ္လာဟ် (رضي الله عنه) သခင်ကြီးကပြောပြသည်။ (ကျွန်ုပ်သည်

ခဲပစ်ပေါက်ခံရသော ထိုအမျိုးသားအားတွေ့မြင်ရသည်မှာ ၎င်းသည် ခဲဖြင့်ပစ်ပေါက်ခံနေရစဉ် ခဲပေါက်ခံနေရသည့် အမျိုးသမီးထံလာပြီး ထိုသူမအား ကျောက်တုံးများမထိရန် ကာကွယ်ပေးနေသည်။)

## (၁၂) သမီးများကို ပြုစုပျိုးထောင်ပေးသည့် အကျိုးရလဒ်

عَنْ عَائِشَةَ رَضِيَ اللَّهُ عَنْهَا، قَالَتْ: دَخَلَتِ امْرَأَةٌ مَعَهَا ابْنَتَانِ لَهَا تَسْأَلُ، فَلَمْ تَجِدْ عِنْدِي شَيْئًا غَيْرَ تَمْرَةٍ، فَأَعْطَيْتُهَا إِيَّاهَا، فَقَسَمَتْهَا بَيْنَ ابْنَتَيْهَا، وَلَمْ تَأْكُلْ مِنْهَا، ثُمَّ قَامَتْ، فَخَرَجَتْ، فَدَخَلَ النَّبِيُّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ عَلَيْنَا، فَأَخْبَرْتُهُ فَقَالَ: «مَنِ ابْتُلِيَ مِنْ هَذِهِ البَنَاتِ بِشَيْءٍ كُنَّ لَهُ سِتْرًا مِنَ النَّارِ». (متفق عليه).

ဟဇရသ်အာအေရှာဟ် (ﷺ) သခင်မဆင့်ပြန်ခဲ့သည်မှာ အမျိုးသမီးတစ်ဦးသည် တောင်းရမ်းရန်ဝင်ရောက်လာသည်။ ၎င်းနှင့်အတူ သူမ၏သမီးငယ်နှစ်ဦးလည်းအတူပါရှိသည်။ သို့သော်ကျွန်မထံတွင် စွန်ပလွန်သီးတစ်လုံးအပြင် မည်သည့်မျှပေးရန်မရှိပါ။ သို့ဖြစ်ပေရာ ထိုစွန်ပလွန်သီးကိုသာ သူမအားပေးလိုက်ပါသည်။ ထိုသူမသည် စွန်ပလွန်သီးကို နှစ်ပိုင်းပိုင်း၍ မိမိ၏သမီးငယ်နှစ်ဦးအား ခွဲဝေပေးလိုက်ပြီး မိမိမှာမူစားသုံးခြင်းမပြုခဲ့ပေ။ ထို့နောက်သူမသည် ထွက်သွားခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) ကကျွန်မတို့ထံ ကြွမြန်းလာသော အခါ ကျွန်မတို့သည် ထိုအကြောင်းအရာကို လျှောက်ထားလေရာ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အကြင်မည်သူမဆို ဤသမီး

ငယ်များကြောင့် တစ်စုံတစ်ရာစမ်းသပ်ခြင်းခံရလျှင် ထိုသမီးငယ်များသည် ၎င်းသူအဖို့ ဂျဟန္နမ်အပါယ်ငရဲဘုံမှ အတားအဆီးဖြစ်သွားပေသည်။

## (၁၃) မိဘဘက်မှ ဟဂျ်ပြုခြင်းသည် အလွန်ကျေးဇူးကြီးမားလှပေသည်

عَنِ ابْنِ عَبَّاسٍ رَضِيَ اللَّهُ عَنْهُمَا، أَنَّ امْرَأَةً مِنْ جُهَيْنَةَ، جَاءَتْ إِلَى النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، فَقَالَتْ: إِنَّ أُمِّي نَذَرَتْ أَنْ تَحُجَّ فَلَمْ تَحُجَّ حَتَّى مَاتَتْ، أَفَأَحُجُّ عَنْهَا؟ قَالَ: «نَعَمْ حُجِّي عَنْهَا، أَرَأَيْتِ لَوْ كَانَ عَلَى أُمِّكِ دَيْنٌ أَكُنْتِ قَاضِيَةً؟ اقْضُوا اللَّهَ فَاللَّهُ أَحَقُّ بِالوَفَاءِ». (رواه البخاري).

ဟဇရသ်အဗ်ဒုလ်လားဗင်န်အဗ္ဗားစ် သခင်ကဆင့်ပြန်ခဲ့သည်မှာ ဂျုဟိုင်နားမျိုးနွယ်မှ အမျိုးသမီးတစ်ဦးသည် တမန်တော်မြတ် (ﷺ) ထံ ရောက်ရှိလာပြီး လျှောက်ထားသည်မှာ ကျွန်တော်မျိုးမ၏ မိခင် သည် ဟဂျ်ပြုရန် နဇရ်ကိုးခဲ့ပါသည်။ သို့သော်လည်း ထိုသူမသည် ကွယ်လွန် သေဆုံးခဲ့ပေသည်။ သို့ဖြစ်ပေရာ ကျွန်တော်မျိုးမသည် မိခင် ဘက်မှ ဟဂျ်ပြုပေးရမည်လော။ ထိုအခါကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ ကောင်းပြီ၊ အသင်မသည် မိခင်ဘက်မှ ဟဂျ်ပြုပေးပါလေ။ အကယ်၍ အသင်မ၏ မိခင်အပေါ်တွင် အကြွေးအမြီတင်ရှိနေလျှင် အသင်မသည် ပေးဆပ်လိုက်မည်မဟုတ်လော။ ထို့ကြောင့် အသင်တို့

သည် အလ္လာဟ်အရှင်မြတ်၏ ကြွေးမြီကို ပေးဆပ်ကြကုန်၊ အလ္လာဟ် အရှင်မြတ်၏ ကြွေးမြီကိုပေးဆပ်မှသာ ပိုထိုက်သက်ပေသည်။

## (၁၄) နဖွလ်နမားဇ်ဖတ်နေစဉ် မိခင်ခေါ်လျှင် နမားဇ်ဖျက်၍ မိခင်အားအဖြေပေးရမည်

عَنْ أَبِي هُرَيْرَةَ رَضِيَ اللَّهُ عَنْهُ، قَالَ: قَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: "كَانَ رَجُلٌ فِي بَنِي إِسْرَائِيلَ يُقَالُ لَهُ جُرَيْجٌ يُصَلِّي، فَجَاءَتْهُ أُمُّهُ، فَدَعَتْهُ، فَأَبَى أَنْ يُجِيبَهَا، فَقَالَ: أُجِيبُهَا أَوْ أُصَلِّي، ثُمَّ أَتَتْهُ فَقَالَتْ: اللَّهُمَّ لاَ تُمِتْهُ حَتَّى تُرِيَهُ وُجُوهَ المُومِسَاتِ، وَكَانَ جُرَيْجٌ فِي صَوْمَعَتِهِ، فَقَالَتِ امْرَأَةٌ: لَأَفْتِنَنَّ جُرَيْجًا، فَتَعَرَّضَتْ لَهُ، فَكَلَّمَتْهُ فَأَبَى، فَأَتَتْ رَاعِيًا، فَأَمْكَنَتْهُ مِنْ نَفْسِهَا، فَوَلَدَتْ غُلاَمًا فَقَالَتْ: هُوَ مِنْ جُرَيْجٍ، فَأَتَوْهُ، وَكَسَرُوا صَوْمَعَتَهُ، فَأَنْزَلُوهُ وَسَبُّوهُ، فَتَوَضَّأَ وَصَلَّى ثُمَّ أَتَى الغُلاَمَ، فَقَالَ: مَنْ أَبُوكَ يَا غُلاَمُ؟ قَالَ: الرَّاعِي، قَالُوا: نَبْنِي صَوْمَعَتَكَ مِنْ ذَهَبٍ، قَالَ: لاَ، إِلَّا مِنْ طِينٍ". (رواه البخاري).

ဟဇရတ် အဗူဟိုရိုင်ရာ (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ ဗနီအစ္စရာအီးလ်မျိုးနွယ်တို့တွင် ဂျူရိုင်ဂျ်ဟုခေါ်တွင်သော ပုဂ္ဂိုလ်တစ်ဦးရှိခဲ့သည်။ ၎င်းသည် (တစ်ရက်) နမားဇ်ဖတ်နေစဉ် ၎င်း၏မိခင်သည်ရောက်လာပြီး ၎င်းအား ခေါ်ပေသည်။ သို့သော်လည်း ၎င်းသည်မိခင်အား အဖြေမပေးခဲ့ပေ။

ငါသည် မိခင်အားအဖြေပေးရမည်လော(သို့)နမားဇ်ဝတ်ပြုရမည်လော။ ဟု (စိတ်တွင်း) တွေးစခဲ့သည်။

ထို့နောက်တွင် မိခင်ကြီးသည် ၎င်းထံလာ၍ ပြောသည်မှာ အလ္လာဟ်အရှင်မြတ် အသင့်အား ပြည့်တန်ဆာအမျိုးသမီးများနှင့် မဆုံးစည်းစေမီ မသေဆုံးစေပါနှင့်၊ ထိုသို့ဖြင့် ဂျူရိုင်ဂျ်သည် မိမိ၏ ဝတ်ပြုဆောင်၌ ရှိနေခဲ့သည်။ (တစ်ရက်) အမျိုးသမီးတစ်ဦးက ပြောသည်မှာ ငါသည်မုချကေန် ဂျူရိုင်းဂျ်အား ဖြားယောင်းသွေးဆောင်မည်။ သို့ဖြစ်ပေရာ ထိုသူမသည် မိမိကိုယ်ကို ဂျူရိုင်းဂျ်အားတင်ဆပ်ပြီး (ဂိုနှဟ်ကျူးလွန်ရန်) ပြောဆိုသည်။ သို့သော်လည်း ဂျူရိုင်းဂျ်သည် ငြင်းဆန်ခဲ့ပေသည်။ သို့ဖြစ်ပေရာ ထိုသူမသည် ဆိတ်ကျောင်းသားတစ်ဦးထံသွားပြီး မိမိကိုယ်ကို ထိုသူနှင့် (ဇေနာအမှုကို) ဖြစ်စေခဲ့သည်။ ဤသို့ဖြင့် ထိုသူမသည် ကလေးငယ်တစ်ဦးမွေးမြင်လိုက်သည်။ ထိုအခါ ဖွားမြင်လိုက်သူမကပြောသည်မှာ ဤကလေးသည် ဂျူရိုင်းဂျ်နှင့် ရသည့်ကလေးဖြစ်သည်။ ထိုအခါလူတို့က ဂျူရိုင်းဂျ်ထံလာ၍ ၎င်း၏ ဝတ်ပြုဆောင်ကို ချိုးဖျက်ကာ ၎င်းအားတစ်နေရာတွင် စတည်းချစေပြီးဆဲဆိုကြသည်။ ထိုအခါ ဂျူရိုင်းဂျ်သည် ဝုဇူရေသန့်စင်ပြီး နမားဇ်ဝတ်ပြု၍ ထိုကလေးထံလာပြီးမေးသည်။ အို–ကလေးငယ် အသင်၏ ဖခင်မည်သူနည်း။ ထိုအခါ ကလေးက ဆိတ်ကျောင်းသာဖြစ်ကြောင်း ဖြေကြားခဲ့သည်။ ထိုအခါမှလူတို့သည် (ဂျူရိုင်းဂျ်အား) ကျွန်ုပ်တို့သည် အသင်၏ ဝတ်ပြုဆောင်ကို ရွှေဖြင့်ပြန်လည်ဆောက်လုပ်ပေးပါမည်ဟု

ပြောကြသည်။ သို့သော်လည်း ဂျိုရိုင်းဂျ်သည် မြေဖြင့်သာ ဆောက်လုပ်ပေးရန် တောင်းဆိုခဲ့ပေသည်။

## (၁၅) ဇနီးသည်၏ကျေနပ်မှုကြောင့် ခင်ပွန်းသည်သည် ဇနီးသည်အား ဝတ္တရားများမပေးဆပ်လျှင်ပိုင်ပေသည်

عَنْ عَائِشَةَ رَضِيَ اللَّهُ عَنْهَا، قَالَتْ: «كَانَ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ إِذَا أَرَادَ سَفَرًا أَقْرَعَ بَيْنَ نِسَائِهِ، فَأَيَّتُهُنَّ خَرَجَ سَهْمُهَا خَرَجَ بِهَا مَعَهُ، وَكَانَ يَقْسِمُ لِكُلِّ امْرَأَةٍ مِنْهُنَّ يَوْمَهَا وَلَيْلَتَهَا، غَيْرَ أَنَّ سَوْدَةَ بِنْتَ زَمْعَةَ وَهَبَتْ يَوْمَهَا وَلَيْلَتَهَا لِعَائِشَةَ زَوْجِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، تَبْتَغِي بِذَلِكَ رِضَا رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ». (رواه البخاري).

ဟဇရသ်အာအေရှာဟ် (ﷸ) သခင်မဆင့်ပြန်ခဲ့သည်မှာ ကိုယ်တော်မြတ် (ﷺ) သည် ခရီးတစ်ခုနှင်ရန် ဆန္ဒပြုတော်မူလျှင် မိမိ၏ ကြင်ယာတော်များကြားတွင် မဲနှိုက်စေတော်မူသည်။ ထိုသို့ ကြင်ယာတော်များမှ မည်သူ၏အလှည့်ပင်ကျသည်ဖြစ်စေ ကိုယ်တော်သည် ၎င်းနှင့် အတူ (ခရီး) ထွက်တော်မူသည်။ ထို့အတူ ကိုယ်တော်သည် ကြင်ယာတော်တစ်ဦးတိုင်းအတွက် နေ့နှင့်ညအချိန်များ ခွဲဝေသတ်မှတ်ပေးတော်မူသည်။ သို့သော် ဟဇရသ်စောင်ဒဟ်သခင်မသည် မိမိ၏နေ့နှင့်ညကို ကိုယ်တော်၏ကြင်ယာတော် ဟဇရသ်အာအေရှာဟ် (ﷸ) သခင်မအား လက်ဆောင်အဖြစ် ဆက်သခဲ့သည်။ သခင်မကြီးသည်

ထိုသို့ပြုခြင်းမှာ ရစူလ်တမန်တော်မြတ် (ﷺ) ၏ ကြည်ဖြူနှစ်သက်မှုကို လိုလားသောကြောင့်ပင်ဖြစ်သည်။

## (၁၆) နို့စို့ဖက်သားချင်းသည်လည်း ဆွေမျိုးအရင်းအချာဖြစ်သည်

عَنْ عَائِشَةَ رَضِيَ اللَّهُ عَنْهَا، قَالَتْ: اسْتَأْذَنَ عَلَيَّ أَفْلَحُ، فَلَمْ آذَنْ لَهُ، فَقَالَ: أَتَحْتَجِبِينَ مِنِّي وَأَنَا عَمُّكِ، فَقُلْتُ: وَكَيْفَ ذَلِكَ؟ قَالَ: أَرْضَعَتْكِ امْرَأَةُ أَخِي بِلَبَنِ أَخِي، فَقَالَتْ: سَأَلْتُ عَنْ ذَلِكَ رَسُولَ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ فَقَالَ: «صَدَقَ أَفْلَحُ ائْذَنِي لَهُ». (متفق عليه).

ဟဇရတ် အာအေရှာဟ် (ﷺ) သခင်မကဆင့်ပြန်ခဲ့သည်မှာ ကျွန်မထံ (တစ်ရက်) အဖွ်လာဟ် ဆိုသူသည် (ဝင်ရောက်ရန်) ခွင့်တောင်းခဲ့ပေသည်။ ကျွန်မသည် ထိုသူ့အားဝင်ခွင့်မပေးခဲ့ပါ။

ထိုအခါ ၎င်းသူကပြောသည်မှာ ကျွန်ုပ်သည် အသင်မ၏ ဦးလေးဖြစ်ပါလျှက် အသင်မသည် ကျွန်ုပ်နှင့် ပရ်ဒါပြုနေပါသလော။ ထိုအခါကျွန်မက ဦးလေးတော်စပ်မှုသည် မည်သို့ဖြစ်ကြောင်း မေးမြန်းခဲ့ရာ ၎င်းကပြောသည်မှာ ကျွန်ုပ်၏မရီးသည် သခင်မအား နို့ရည်တိုက်ကျွေးခဲ့ပါသည်။ ၎င်းသူမ၏နို့ရည်သည် ကျွန်ုပ်၏နောင်တော်ကို အကြောင်းပြုရခြင်းဖြစ်သည်။ ထိုအခါကျွန်မသည် တမန်တော် (ﷺ) အား မေးမြန်းဦးမည်ဟုပြောဆိုခဲ့ပေသည်။ ထိုသို့ဖြင့် ကိုယ်တော်မြတ် (ﷺ) အား မေးမြန်းတော်မူသည့်အခါ ကိုယ်တော်မိန့်တော်မူသည်မှာ

အဖွဲ့လာဟ် အမှန်ကိုပြောဆိုခြင်းဖြစ်သည်။ အသင်သည် ၎င်းအား ဝင်ခွင့်ပြုလိုက်ပါ။

## (၁၇) စစ်မှန်သောသောင်ဗာပြုခဲ့သည့် ဆွဟာဘီအမျိုးသမီး တစ်ဦးအကြောင်း

عَنْ عُرْوَةَ بْنِ الزُّبَيْرِ، «أَنَّ امْرَأَةً سَرَقَتْ فِي غَزْوَةِ الفَتْحِ، فَأُتِيَ بِهَا رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، ثُمَّ أَمَرَ بِهَا، فَقُطِعَتْ يَدُهَا»، قَالَتْ عَائِشَةُ: فَحَسُنَتْ تَوْبَتُهَا، وَتَزَوَّجَتْ، وَكَانَتْ تَأْتِي بَعْدَ ذَلِكَ، فَأَرْفَعُ حَاجَتَهَا إِلَى رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ. (رواه البخاري).

ဟဇရသ် အွရ်ဝါဗင်နိဇိုဗိုင်း၏ (ﷺ) သခင်ကဆင့်ပြန်ခဲ့သည် အမျိုးသမီးတစ်ဦးသည် မက္ကာဟ်ရွှေမြို့တော်ကို အောင်နိုင်ခဲ့သည့် စစ်ပွဲတွင် ခိုးဝှက်မှုပြုခဲ့ပေသည်။ သို့ဖြစ်ပေရာ ထိုသူမအား ကိုယ်တော်မြတ် (ﷺ) ထံတင်ဆက်ခြင်းခံရသည်။ ထိုအခါ ကိုယ်တော်သည် ထိုသူမ၏ လက်တစ်ဖက်ဖြတ်ပစ်ရန် အမိန့်ပေးတော်မူပေသည်။ ဟဇရသ် အာအေရှာဟ်သခင်မကြီးမိန့်ဆိုသည်မှာ ထိုသူမ၏သောင်ဗဟ်ပြုမှုသည် အလွန်ပင်ကောင်းမွန်ခဲ့ပေသည်။ သူမသည်နေကာဟ်ထိန်မြားမှုလည်း ပြုခဲ့ပေသည်။ နောက်ပိုင်းတွင်လည်း ထိုသူမသည် (ကိုယ်တော်မြတ်ထံ) ရောက်လာပြီး မိမိ၏လိုအပ်ချက်ကို တင်ပြလေ့ရှိပေသည်။

## (၁၈) ခင်ပွန်းသည်သည် မိမိ၏ဇနီးသည်မှ မနှစ်မြို့ဖွယ်ရာ မြင်တွေ့ရသောကြောင့် ကွာရှင်းမည်ဟုရည်ရွယ်သဖြင့် အမျိုးသမီး၏ဘက်မှညှိနှိုင်းခြင်း

عَنْ عَائِشَةَ رَضِيَ اللَّهُ عَنْهَا: ﴿وَإِنِ امْرَأَةٌ خَافَتْ مِنْ بَعْلِهَا نُشُوزًا أَوْ إِعْرَاضًا﴾ [النساء: ١٢٨]، قَالَتْ: «هُوَ الرَّجُلُ يَرَى مِنَ امْرَأَتِهِ مَا لاَ يُعْجِبُهُ، كِبَرًا أَوْ غَيْرَهُ، فَيُرِيدُ فِرَاقَهَا»، فَتَقُولُ: أَمْسِكْنِي وَاقْسِمْ لِي مَا شِئْتَ، قَالَتْ: «فَلاَ بَأْسَ إِذَا تَرَاضَيَا». (رواه البخاري).

ဟဇရသ် အာအေရှာဟ် (ﷺ) သခင်မဆင့်ပြန်ခဲ့သည်။ (ကုရ်အာန်ကျမ်းလာ အာယတ်တော်ဖြစ်သည့်)

﴿وَإِنِ امْرَأَةٌ خَافَتْ مِنْ بَعْلِهَا نُشُوزًا أَوْ إِعْرَاضًا﴾ [النساء: ١٢٨]

၏ဆိုလိုရင်းကို ဖော်ပြသည်မှာ အမျိုးသားတစ်ဦးသည် မိမိ၏ဇနီးသည်မှ မနှစ်မြို့ဖွယ်ရာ မာန (သို့) အခြားတစ်စုံတစ်ရာတွေ့ရှိရ၍ ထိုသူမအား ကွားရှင်းပြတ်စဲရန် ရည်ရွယ်ခဲ့သည်။ ထိုအခါ ဇနီးသည်ကပြောသည်မှာ ကျွန်မအား မကွာရှင်းဘဲ မိမိနေကာဟ်တွင် သာထားပါ။ ပြီးနောက်မိမိနှစ်သက်သောအရာကိုသာပေးပါ။ (သဘောမှာ ခင်ပွန်းသည်ပေးဆပ်ရမည့် ဝတ္တရားများကို ခွင့်လွှတ်ပေးခြင်းဖြစ်သည်။) ဟဇရသ် အာအေရှာဟ် (ﷺ) သခင်မမိန့်သည်မှာ အကယ်၍ ခင်ပွန်းသည်နှင့်ဇနီးသည် နှစ်ဦးနှစ်ဖက်ကြည်ဖြူခဲ့ပါလျှင် မည်သို့မျှ အပြစ်မဖြစ်ပေ။

## (၁၉) သူစိမ်းအမျိုးသားအမျိုးသမီး နှစ်ဦးတည်းနေထိုင်ခြင်း မပိုင်ပေ

عَنِ ابْنِ عَبَّاسٍ رَضِيَ اللَّهُ عَنْهُمَا، أَنَّهُ: سَمِعَ النَّبِيَّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، يَقُولُ: «لاَ يَخْلُوَنَّ رَجُلٌ بِامْرَأَةٍ، وَلاَ تُسَافِرَنَّ امْرَأَةٌ إِلَّا وَمَعَهَا مَحْرَمٌ»، فَقَامَ رَجُلٌ فَقَالَ: يَا رَسُولَ اللَّهِ، اكْتُتِبْتُ فِي غَزْوَةِ كَذَا وَكَذَا، وَخَرَجَتِ امْرَأَتِي حَاجَّةً، قَالَ: «اذْهَبْ فَحُجَّ مَعَ امْرَأَتِكَ». (رواه البخاري).

ဟဇရသ် အဗ်ဒွလ်လားဗင်န် အဗ္ဗားစ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ ၎င်းသည် တမန်တော်မြတ် (ﷺ) မိန့်ကြားတော်မူ သည်ကိုကြား သိခဲ့ရသည်မှာ အမျိုးသားတစ်ဦးသည် အခြားအမျိုးသမီးတစ်ဦးနှင့် နှစ်ကိုယ်တည်းလွတ်လပ်စွာ နေထိုင်ခြင်းမပြုရပေ။ ထိုနည်းတူစွာ အမျိုးသမီးတစ်ဦးသည် မိမိနှင့်နေကာဟ်မပြုပိုင်သည့် အမျိုးသား မပါပဲ ခရီးမထွက်ရပေ။ ထိုအခါ ပုဂ္ဂိုလ်တစ်ဦးထ၍ လျှောက်ထား သည်မှာ ... အို- အလ္လာဟ်အရှင်မြတ်၏ရစူလ် .... ကျွန်ုပ်သည် မည်သည့်စစ်ပွဲတွင်ပါဝင်ရန် စာရင်းပေးသွင်းခဲ့ပါသည်။ ကျွန်တော်မျိုး ၏ဇနီးသည်သည် ဟဂ်ျပြုရန် ထွက်ခွာသွားခဲ့ပါသည်။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ ... အသင်သွားပါ မိမိ၏ဇနီး သည်နှင့်အတူတကွ ဟဂ်ျပြုပါ။

## (၂၀) စစ်ပွဲတွင်ပါဝင်တိုက်ခိုက်မှုမပြုသည့် ကာဖိရ် အမျိုးသမီးများနှင့် ကလေးသူငယ်များအား သတ်ဖြတ်ပိုင်ခွင့်မရှိ

عَنِ ابْنِ عُمَرَ رَضِيَ اللَّهُ عَنْهُمَا، قَالَ: وُجِدَتِ امْرَأَةٌ مَقْتُولَةً فِي بَعْضِ مَغَازِي رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، «فَنَهَى رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ عَنْ قَتْلِ النِّسَاءِ وَالصِّبْيَانِ». (متفق عليه).

ဟဇရသ် အဗ်ဒုလ်လားဗင်န် အိုမရ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) ကိုယ်တိုင်ပါဝင်သော စစ်ပွဲအချို့တွင် သတ်ဖြတ်ခံခဲ့ရသည့် အမျိုးသမီးတစ်ဦးကိုတွေ့ရှိခဲ့ရသည်။ သို့ရှိရာ ကိုယ်တော်မြတ် (ﷺ) သည် အမျိုးသမီးများနှင့် ကလေးငယ်များအား သတ်ဖြတ်ခြင်းမှတားမြစ်ခဲ့ပေသည်။ (မှတ်ချက်) အကယ်၍ အဆိုပါအမျိုးသမီးသည် စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရာတွင်ပါဝင်ခဲ့ပါမူ ထိုသူမအားသတ်ဖြတ်ခွင့်ရှိပေသည်။

## (၂၁) အခြားသူအားမဟုတ်မဟတ်စွပ်စွဲ ပြောဆိုခြင်း၏ အပြစ်ဒဏ်

عَنْ أَبِي هُرَيْرَةَ رَضِيَ اللَّهُ عَنْهُ، قَالَ: سَمِعْتُ أَبَا القَاسِمِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ يَقُولُ: «مَنْ قَذَفَ مَمْلُوكَهُ، وَهُوَ بَرِيءٌ مِمَّا قَالَ، جُلِدَ يَوْمَ القِيَامَةِ، إِلَّا أَنْ يَكُونَ كَمَا قَالَ». (رواه البخاري).

ဟဇရသ် အဗူဟိုရိုင်ရာဟ် (ﷺ) ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် အဗွလ်ကာစင်မ် (ဝါ) တမန်တော်မြတ် (ﷺ) ဤသို့မိန့်တော်မူသည်ကို ကြားသိခဲ့ရသည်။ အကြင်သူသည် မိမိအစေခံအား မတရားစွပ်စွဲပြော ဆိုမည်။ အမှန်တကယ်မူ ထိုအစေခံသည် မိမိစွပ်စွဲပြောဆိုသည်နှင့် မည်သို့မျှမပတ်သက်ပေ။ ထိုသို့ဆိုလျှင် ၎င်းစွပ်စွဲသူအား ကေယာမသ် နေ့တွင် ကြိမ်ဒဏ်ရိုက်နှက်ခြင်းခံရမည်ဖြစ်သည်။ သို့သော် ၎င်းသခင် ပြောဆိုသောအရာသည် အမှန်တကယ်ဖြစ်နေလျှင် အကြောင်းမဟုတ် ပေ။

## (၂၂) ကိုယ်တော်မြတ် (ﷺ) ၏ရှေ့တော်တွင် အကယ်၍ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကို ချိုးဖောက်လျှင် ကိုယ်တော်သည် ထိုက်သက်သည့် အပြစ်ဒဏ်ကို ပြတ်သားစွာ စီရင်တော်မူခြင်း အကြောင်း

عَنْ عَائِشَةَ رَضِيَ اللَّهُ عَنْهَا، أَنَّ قُرَيْشًا أَهَمَّهُمْ شَأْنُ الْمَرْأَةِ الْمَخْزُومِيَّةِ الَّتِي سَرَقَتْ، فَقَالُوا: وَمَنْ يُكَلِّمُ فِيهَا رَسُولَ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ؟ فَقَالُوا: وَمَنْ يَجْتَرِئُ عَلَيْهِ إِلَّا أُسَامَةُ بْنُ زَيْدٍ، حِبُّ رَسُولِ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ فَكَلَّمَهُ أُسَامَةُ، فَقَالَ رَسُولُ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ: "أَتَشْفَعُ فِي حَدٍّ مِنْ حُدُودِ اللَّهِ، ثُمَّ قَامَ فَاخْتَطَبَ، ثُمَّ قَالَ: إِنَّمَا أَهْلَكَ الَّذِينَ قَبْلَكُمْ، أَنَّهُمْ كَانُوا إِذَا سَرَقَ فِيهِمُ الشَّرِيفُ تَرَكُوهُ، وَإِذَا سَرَقَ فِيهِمُ

الضَّعِيفُ أَقَامُوا عَلَيْهِ الحَدَّ، وَايْمُ اللَّهِ لَوْ أَنَّ فَاطِمَةَ بِنْتَ مُحَمَّدٍ سَرَقَتْ لَقَطَعْتُ يَدَهَا". (متفق عليه).

ဟဇရသ် အာအေရှာဟ် (ﷺ) သခင်မဆင့်ပြန်တော်မူသည်။ ခိုးဝှက်မှုကို ကျူးလွန်ခဲ့သော မခ်ဇူမီယာမျိုးနွယ်မှ အမျိုးသမီးတစ်ဦး၏ ကိစ္စရပ်သည် ကိုရိုင်းရှ်တို့အား ဝမ်းနည်းဖွယ်ရာဖြစ်စေခဲ့သည်။ သို့ရှိရာ ၎င်းတို့ကပြောဆိုကြသည်မှာ ဤအမျိုးသမီးနှင့်စပ်လျဉ်း၍ ကိုယ်တော်မြတ် အားမည်သူ ကြားဝင်အသနားခံမည်နည်း။ ထိုအခါ လူတို့က အလ္လာဟ်အရှင့်တမန်တော်၏အချစ်တော် ဟဇရသ် အိုစာမာဟ်ဗင်န် ဇိုက်ဒ်မှလွဲ၍ မည်သူသည် ကိုယ်တော်မြတ်အား ထိုကိစ္စနှင့်စပ်လျဉ်း၍ လျှောက်ထားရန် အရဲဝံ့ပါသနည်း။ နောက်ဆုံး ဟဇရသ်အိုစာမာဟ် သည် ကိုယ်တော်မြတ်အား (ထိုကိစ္စနှင့်စပ်လျဉ်း၍) လျှောက်တင်ခဲ့ သည်။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) ကမိန့်တော်မူသည်မှာ အသင့် အနေနှင့် အလ္လာဟ်အရှင်မြတ်သည် အပြစ်ရှိသူအပေါ် သတ်မှတ်ထား သည့် ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ အသနားခံပေးနေသလော။ ထို့နောက် ကိုယ်တော်မြတ်သည် မတ်တပ်ရပ်တော်မူပြီး မိန့်ကြားတော်မူသည်မှာ အို-လူတို့ အသင်တို့အလျင်ရှိခဲ့ကြသောလူတို့အား ပျက်စီးစေခဲ့သော အရာမှာ ၎င်းတို့အနက်မှ အဆင့်အတန်းရှိသူတစ်ဦး တစ်ယောက် ခိုးဝှက်လျှင် ၎င်းအားအပြစ်မပေးဘဲ လွှတ်လိုက်ကြပြီး အကယ်၍ ချိန့်သူတစ်ဦးဦး ခိုးဝှက်လျှင် ၎င်းအားပြစ်ဒဏ်ခတ်ကြသည်။ ပြီးနောက် ကိုယ်တော်မြတ် (ﷺ) သည် ကျိမ်ဆို၍မိန့်တော်မူသည်မှာ

အလ္လာဟ်အရှင်မြတ်၏ကစမ် အကယ်၍ မိုဟမ္မဒ်၏သမီး ဖွာသွေမာသည် ခိုးဝှက်မှုပြုလျှင်လည်း မုချငါကိုယ်တော်သည် ၎င်း၏လက်ကို ဖြတ်တောက်ပစ်တော်မူမည်။

## (၂၃) တမန်တော်မြတ် (ﷺ) လအ်နသ်ပြုခဲ့သော အမျိုးသမီးများ

عَنِ ابْنِ مَسْعُودٍ رَضِيَ اللَّهُ عَنْهُ قَالَ: «لَعَنَ اللَّهُ الوَاشِمَاتِ وَالمُسْتَوْشِمَاتِ، وَالمُتَنَمِّصَاتِ وَالمُتَفَلِّجَاتِ لِلْحُسْنِ، المُغَيِّرَاتِ خَلْقَ اللَّهِ» مَا لِي لاَ أَلْعَنُ مَنْ لَعَنَهُ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، وَهُوَ فِي كِتَابِ اللّٰه. (متفق عليه).

ဟဇရင်အဗ်ဒွလ်လာဟ်ဗင်န် မတ်စ်အူးဒ် (رضي الله عنه) သခင်ဆင့်ပြန်ခဲ့သည် သခင်ကြီးကမိန့်သည်မှာ (ခန္ဓာကိုယ်လှပစေရန်) ဆေးမှင်ကြောင် ထိုးပေးသူမများအားလည်းကောင်း၊ ထိုနည်းတူစွာ ဆေးမှင်ကြောင်ထိုး သူမများအားလည်းကောင်း၊ (မျက်နှာကိုလှပစေရန်) နဖူးမှအမွှေး အမျှင်များကို နှုတ်သော(ညှပ်သော) သူမများအားလည်းကောင်း၊ သွားများကိုလှပသွားစေရန် တစ်ချောင်းနှင့်တစ်ချောင်း ချဲထားသော သူမများကို အလ္လာဟ်အရှင်မြတ်သည် မိမိကရုဏာတော်မှ ဝေးကွာစေ တော်မူပါ။ အကြောင်းမှာ ထိုသူမများသည် အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုကို ပြောင်းလွဲသောသူမများဖြစ်ကြသည်။ ဟဇရသ် အဗ်ဒွလ်လာဟ်ဗင်န် မတ်စ်အူးဒ် သခင်မိန့်သည်မှာ ကျွန်ုပ်သည်

အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် (ﷺ) လအ်နသ်ပြုသူမများအား အဘယ့်ကြောင့် လအ်နသ်မပြုရမည်နည်း။ ထို့အပြင် ထိုပြစ်မှုနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်မြတ်တွင် (တားမြစ်)မှုလာရှိထားပြီးဖြစ်ပေသည်။

## (၂၄) ကေယာမသ်ပြန်လည်ရှင်ပြန်ထရမည့်နေ့တွင် လူသားတို့ကြုံဆုံရမည့်အခြေအနေ

عَنْ عَائِشَةَ رَضِيَ اللَّهُ عَنْهَا، قَالَتْ: قَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: تُحْشَرُونَ حُفَاةً عُرَاةً غُرْلًا» قَالَتْ عَائِشَةُ: فَقُلْتُ: يَا رَسُولَ اللَّهِ، الرِّجَالُ وَالنِّسَاءُ يَنْظُرُ بَعْضُهُمْ إِلَى بَعْضٍ؟ فَقَالَ: «الأَمْرُ أَشَدُّ مِنْ أَنْ يُهِمَّهُمْ ذَاكِ». (متفق عليه).

ဟဇရသ်အာအေရှာဟ် (ﷺ) သခင်မဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်။ အသင်တို့သည် ကေယာမတ်သ်နေ့တွင် ဖိနပ်မပါသူများ၊ အဝတ်အစားမဲ့သူများ၊ ခတ်သ်နာမပြုရသေးသူများအဖြစ် နှင့်ရှင်ပြန်ထရပေမည်။ ထိုအခါဟဇရသ်အာအေရှာဟ်(ﷺ) သခင်မကလျှောက်ထားသည်မှာ အို-အလ္လာဟ်အရှင်မြတ်၏ရစူလ် … ထိုအချိန်တွင် အမျိုးသားများနှင့် အမျိုးသမီးများသည် တစ်ဦးကိုတစ်ဦးကြည့်ရှုကြလိမ့်မည်။ ထိုအခါတမန်တော်မြတ် (ﷺ) ကမိန့်တော်မူ

သည်မှာ (ကေယာမသ်နေ့၌ကြုံတွေ့ရမည့်) အချင်းအရာသည် ထိုကိစ္စကိုအာရုံ ပြုသည်ထက် သာပို၍ ပြင်းထန်ပေသည်။

## (၂၅) ဇနီးသည်သည် ခင်ပွန်း၏ခွင့်ပြုချက်ဖြင့်သာ နဖိလ်ရိုဇာ စောင့်ထိန်းခွင့်ရှိသည်

عَنْ أَبِي هُرَيْرَةَ رَضِيَ اللَّهُ عَنْهُ: أَنَّ رَسُولَ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «لاَ يَحِلُّ لِلْمَرْأَةِ أَنْ تَصُومَ وَزَوْجُهَا شَاهِدٌ إِلَّا بِإِذْنِهِ، وَلاَ تَأْذَنَ فِي بَيْتِهِ إِلَّا بِإِذْنِهِ، وَمَا أَنْفَقَتْ مِنْ نَفَقَةٍ عَنْ غَيْرِ أَمْرِهِ فَإِنَّهُ يُؤَدَّى إِلَيْهِ شَطْرُهُ». (رواه البخاري).

ဟာဇရသ်အဗူဟိုရိုင်ရာဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အမျိုးသမီးတစ်ဦးသည် မိမိ၏ ခင်ပွန်းသည်ရှိပါလျက် ၎င်း၏ခွင့်ပြုချက်မရဘဲ (နဖိလ်) ရိုဇာဟ် ဥပုသ် စောင့်ထိန်းခြင်းမပိုင်ပေ။ ထို့အတူ ခင်ပွန်းသည်၏ခွင့်ပြုချက်မရဘဲ ၎င်း၏အိမ်တွင် အခြား(သူစိမ်း) တစ်ဦးအားခွင့်ပြုခြင်းမပိုင်ပေ။ ထို့ပြင် ၎င်းခင်ပွန်း၏အမိန့်မရဘဲ ဇနီးသည်သည် လှူဒါန်းသုံးစွဲခဲ့လျှင် ထိုသုံးစွဲ လှူဒါန်းမှု၏တဝက်သည် ခင်ပွန်းသည်ဘက်မှဖြစ်ပေမည်။

## (၂၆) ခင်ပွန်းသည်သည် မိမိဇနီးသည်အား ကွာရှင်းပြတ်စဲလိုလျှင် မည်သို့ကွာရှင်းရမည်နည်း

عَنْ نَافِعٍ، أَنَّ ابْنَ عُمَرَ بْنِ الخَطَّابِ رَضِيَ اللَّهُ عَنْهُمَا، طَلَّقَ امْرَأَةً لَهُ وَهِيَ حَائِضٌ تَطْلِيقَةً وَاحِدَةً، فَأَمَرَهُ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ أَنْ يُرَاجِعَهَا ثُمَّ يُمْسِكَهَا حَتَّى تَطْهُرَ، ثُمَّ تَحِيضَ عِنْدَهُ حَيْضَةً أُخْرَى، ثُمَّ يُمْهِلَهَا حَتَّى تَطْهُرَ مِنْ حَيْضِهَا، فَإِنْ أَرَادَ أَنْ يُطَلِّقَهَا فَلْيُطَلِّقْهَا حِينَ تَطْهُرُ مِنْ قَبْلِ أَنْ يُجَامِعَهَا: «فَتِلْكَ العِدَّةُ الَّتِي أَمَرَ اللَّهُ أَنْ تُطَلَّقَ لَهَا النِّسَاءُ» وَكَانَ عَبْدُ اللَّهِ إِذَا سُئِلَ عَنْ ذَلِكَ قَالَ لِأَحَدِهِمْ: «إِنْ كُنْتَ طَلَّقْتَهَا ثَلاَثًا، فَقَدْ حَرُمَتْ عَلَيْكَ حَتَّى تَنْكِحَ زَوْجًا غَيْرَكَ». (رواه البخاري).

ဟဇရတ်နာဖွအ် (ﷺ) ဆင့်ပြန်ခဲ့သည်။ ဟဇရတ်အဗ်ဒွလ်လာဟ် ဗင်န်အိုမရ် (ﷺ) သည် မိမိ၏အမျိုးသမီး ဓမ္မတာလာနေသည့်အချိန်တွင်သွလားက်တစ်ကြိမ်ပေးခဲ့သည်။ ထိုအခါကိုယ်တော်မြတ်(ﷺ)သည် ၎င်းအားထိုအမျိုးသမီးကို (ဓမ္မတာသွေး)မှ သန့်ပြန့်သည်အထိ မိမိ၏နေကာဟ်တွင် ပြန်လည်ထားရန် အမိန့်ပေးတော်မူခဲ့သည်။ ပြီးနောက် ၎င်းထံတွင် ထိုအမျိုးသမီးသည် ဒုတိယအကြိမ်ဓမ္မတာသွေးဆင်းလျှင် သူမအား ထိုဓမ္မတာမှ သန့်ပြန်သည်အထိထားပြီးနောက် အကယ် ၍ သွလားက်ပေးလိုပါမူ ထိုသူမသန့်ပြန့်သည့်ကာလတွင် သူမနှင့် ပေါင်းသင်းဆက်ဆံမှုမပြုမီ သွလားက်ပေးရန်မိန့်တော်မူသည်။ ထိုကာလတွင် အလ္လာဟ်အရှင်မြတ်သည် အမျိုးသမီးများအား သွလားက်ပေး

ရန်မိန့်တော်မူထားသည်။ ဟဇရတ်အဗ်ဒွလ်လာဟ် သခင်အား ထိုအရာနှင့်စပ်လျဉ်း၍ မေးမြန်းခြင်းခံရသည့်အခါ သခင်ကြီးသည် လူတို့အနက်တစ်ဦးအားမိန့်သည်မှာ အကယ်၍အသင်သည် ထိုသူမ အား သွလားက် (၃) ကြိမ်ပေးလိုက်လျှင် ၎င်းသူမသည် အသင့်အပြင် အခြားသူတစ်ဦးနှင့် နေကာဟ်ထိမ်းမြားမှုမပြုသရွေ့ ထိုသူမသည် အသင့်အပေါ်၌ ဟရာမ်မဖြစ်ပေ။

## (၂၇) မိမိခံစားနေရသည့် ဝေဒနာအပေါ် သည်းခံမြဲသိပ်မှုရှိသည့် အမျိုးသမီးတစ်ဦးအကြောင်း

عَنْ عَطَاءِ بْنِ أَبِي رَبَاحٍ، قَالَ: قَالَ لِي ابْنُ عَبَّاسٍ: أَلاَ أُرِيكَ امْرَأَةً مِنْ أَهْلِ الجَنَّةِ؟ قُلْتُ: بَلَى، قَالَ: هَذِهِ المَرْأَةُ السَّوْدَاءُ، أَتَتِ النَّبِيَّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ فَقَالَتْ: إِنِّي أُصْرَعُ، وَإِنِّي أَتَكَشَّفُ، فَادْعُ اللَّهَ لِي، قَالَ: «إِنْ شِئْتِ صَبَرْتِ وَلَكِ الجَنَّةُ، وَإِنْ شِئْتِ دَعَوْتُ اللَّهَ أَنْ يُعَافِيَكِ» فَقَالَتْ: أَصْبِرُ، فَقَالَتْ: إِنِّي أَتَكَشَّفُ، فَادْعُ اللَّهَ لِي أَنْ لاَ أَتَكَشَّفَ، فَدَعَا لَهَا. (متفق عليه).

ဟဇရတ် အသွာအ်ဗင်န်အဗီရဗားဟ် (رحمه الله) ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်အား အိဗ်နေ့အဗ္ဗားစ် (رضي الله عنهما) သခင်မိန့်ဆိုခဲ့သည်မှာ ကျွန်ုပ်အသင့် အား ဂျန္နသီအမျိုးသမီးတစ်ဦးအား မပြသရပေသလော။ ထိုအခါကျွန်ုပ် ကပြသပါဟုဖြေကြားခဲ့သည်။ သခင်ကြီးကမိန့်သည်မှာ အသားအရည်

မည်းသော အမျိုးသမီးတစ်ဦးသည် တမန်တော်မြတ် (ﷺ) ထံလာရောက်လျှောက်ထားသည်မှာ ကျွန်တော်မျိုးမသည် မူး နောက်၍ လဲကျပါသည်။ ထို့နောက်အရှက်အင်္ဂါလည်း လှစ်ဟသွားပါ သည်။ သို့ဖြစ်ပေရာ ကိုယ်တော်သည် ကျွန်တော်မျိုးမအတွက် ဆုမွန်ဒိုအာပြုပေးသနားတော်မူပါ။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) မိန့်သည်မှာ အကယ်၍အသင်မလိုလားနှစ်သက်ပါက သည်းခံမြိုသိပ်ပါလေ။ အသင်မအတွက် ဂျန္နသ်ရရှိမည်ဖြစ်သည်။ အကယ်၍ငါကိုယ်တော်သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် အသင်မအား ပျောက်ကင်းမှုချီးမြှင့်ရန် တောင်းခံသည်ကိုလိုလားပါလျှင် တောင်းခံပေးတော်မူမည်။ ထိုအခါ ၎င်းသူမကလျှောက်ထားသည်မှာ ကျွန်တော်မျိုးမသည်းခံမျိုသိပ်ပါ မည်။ သို့သော် ကျွန်တော်မျိုးမ မူးမေ့သောအခါ ကျွန်တော်မျိုးမ၏ အရှက်အင်္ဂါမလှစ်ဟစေရန် ဆုမွန်ဒိုအာပြုပေးသနားတော်မူပါ။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) သည် ထိုသူမအတွက် ဆုမွန်ဒိုအာပြုပေးခဲ့သည်။

# (၂၈) မိခင်သည်မိမိကလေးငယ်အား သနားကြင်နာသည်ထက် သာပို၍ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ဗန္ဒာဟ်ကျေးကျွန်များ အားသနားကြင်နာတော်မူသည်

عَنْ عُمَرَ بْنِ الخَطَّابِ رَضِيَ اللَّهُ عَنْهُ: قَدِمَ عَلَى النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ سَبْيٌ، فَإِذَا امْرَأَةٌ مِنَ السَّبْيِ قَدْ تَحْلُبُ ثَدْيَهَا تَسْقِي، إِذَا وَجَدَتْ صَبِيًّا فِي السَّبْيِ أَخَذَتْهُ، فَأَلْصَقَتْهُ بِبَطْنِهَا وَأَرْضَعَتْهُ، فَقَالَ لَنَا النَّبِيُّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «أَتُرَوْنَ هَذِهِ طَارِحَةً وَلَدَهَا فِي النَّارِ» قُلْنَا: لاَ، وَهِيَ تَقْدِرُ عَلَى أَنْ لاَ تَطْرَحَهُ، فَقَالَ: «لَلَّهُ أَرْحَمُ بِعِبَادِهِ مِنْ هَذِهِ بِوَلَدِهَا». (متفق عليه).

ဟဇရသ် အိုမရ်ဗင်န် ခသ္တွာဗ် (ﷺ) ကဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) ထံတော်ပါးတွင် စစ်သုံ့ပန်းများရောက်ရှိလာသည်။ ထိုသုံ့ပန်းများအတွင်း အမျိုးသမီးတစ်ဦးမှ နို့ရည်များစီးကျနေသည်။ ၎င်းသူမသည်သုံ့ပန်းများတွင် မိမိကလေးငယ်အား တွေ့ရသည်နှင့် ကလေးငယ်ကိုပွေ့ဖက်ကာ နို့ရည်တိုက်ကျွေးပေသည်။

ထိုအခါကိုယ်တော်မြတ် (ﷺ) သည် ကျွန်ုပ်တို့အားမိန့်သည်မှာ အသင်တို့ ဤအမျိုးသမီးအား မိမိ၏သားငယ်ကို မီးတွင်းသို့ပစ်ချမည်ဟု ထင်မြင်ကြသလော။ ထိုအခါကျွန်ုပ်တို့က လျှောက်ထားသည်မှာ ဤအမျိုးသမီးသည် မိမိ၏ကလေးငယ်အား (မီးတွင်းသို့) အလျင်းပစ်ချမည်မဟုတ်ပါ။

ထိုအခါကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အလ္လာဟ် အရှင်မြတ်သည် ဤအမျိုးသမီး မိမိကလေးငယ်အား သနားကြင်နာသည်ထက်သာပို၍ မိမိ၏ဗန္ဒဟ်ကျေးကျွန်များအား သနားကြင်နာတော်မူပေသည်။

## (၂၉) နေကာဟ်ထိမ်းမြားမှု အထမြောက်ရန် ကယကံရှင်အမျိုးသမီးဘက်မှ လက်ခံအတည်ပြုရန် လိုအပ်ပေသည်

عَنْ أَبِي هُرَيْرَةَ، قَالَ: قَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «لاَ تُنْكَحُ الأَيِّمُ حَتَّى تُسْتَأْمَرَ، وَلاَ تُنْكَحُ البِكْرُ حَتَّى تُسْتَأْذَنَ» قَالُوا: كَيْفَ إِذْنُهَا؟ قَالَ: «أَنْ تَسْكُتَ». (متفق عليه).

ဟဇရသ် အဗူဟိုရိုင်ရာဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ နေကာဟ်ပြုပြီးသော အမျိုးသမီးတစ်ဦးသည် (လင်ယောကျ်ားကွယ်လွန်သေဆုံးပြီးနောက် ထပ်မံ၍ နေကာဟ်ပြုလျှင် လက်ခံမှုအား နှုတ်လျှာမှပွင့်လင်းစွာ မပြောသ၍ အထမြောက်မည်မဟုတ်ပေ။ ၎င်းနောက်မိန်းမပျိုတစ်ဦး၏ နေကာဟ်မှာမူ ၎င်းသူမခွင့်မပြုသရွေ့ အထမမြောက်ပေ။ ထိုအခါ ဆွဟာဗာသာဝကကြီးများက ၎င်းသူမ၏ခွင့်ပြုမှုသည် မည်သို့ပါနည်းဟု မေးမြန်းလျှောက်ထားကြရာ ထိုအခါကိုယ်တော်မြတ် (ﷺ) က ၎င်းသူမ၏နှုတ်ဆိတ်နေခြင်းဖြစ်သည်ဟု မိန့်တော်မူပေသည်။

## (၃၀) ဆံကျစ်ကျစ်ထားသည့်အမျိုးသမီးတစ်ဦး ရေချိုးသန့်စင်လျှင် ကျစ်ဆံမြီးအားဖြေရန် အရေးမကြီးပေ

عَنْ أُمِّ سَلَمَةَ، قَالَتْ: قُلْتُ يَا رَسُولَ اللهِ إِنِّي امْرَأَةٌ أَشُدُّ ضَفْرَ رَأْسِي فَأَنْقُضُهُ لِغُسْلِ الْجَنَابَةِ؟ قَالَ: «لَا. إِنَّمَا يَكْفِيكِ أَنْ تَحْثِي عَلَى رَأْسِكِ ثَلَاثَ حَثَيَاتٍ ثُمَّ تُفِيضِينَ عَلَيْكِ الْمَاءَ فَتَطْهُرِينَ». (رواه مسلم).

ဟဇရသ်အွမ်မေ့စလမာဟ် (﵂) ဆင့်ပြန်သည်မှာ ကျွန်မသည် ကိုယ်တော်မြတ် (ﷺ) အားလျှောက်ထားခဲ့သည်။ အို- အလ္လာဟ် အရှင်မြတ်၏ရစူလ် မုချကေန် ကျွန်တော်မျိုးမသည် မိမိဦးခေါင်းတွင် ဆံကျစ်ကျစ်ထားသည့်အခါ ရေချိုးရန်တာဝန်ထိုက်လျှင် ထိုကျစ်ဆံမြီးကို ဖြည်ရမည်လော။ ထိုအခါကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ ဖြည်ရန်မလိုအပ်ပေ။ အသင်မ၏ဦးခေါင်းတွင် ရေသုံးခုပ်လောင်းပြီး အသင်မ၏ (ခန္ဓာကိုယ်ကိုနှံ့စပ်အောင်) ရေလောင်းလိုက်လျှင် သန့်ပြန့်သွားမည်ဖြစ်သည်။

## (၃၁) အရွယ်ရောက်ပြီးအမျိုးသမီးများသည် အမွှေးနံ့သာလိမ်းကြံပြီး မိမိနေအိမ်မှ အပြင်သို့မသွားရ

عَنْ زَيْنَبَ، امْرَأَةِ عَبْدِ اللهِ، قَالَتْ: قَالَ لَنَا رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «إِذَا شَهِدَتْ إِحْدَاكُنَّ الْمَسْجِدَ فَلَا تَمَسَّ طِيبًا». (رواه مسلم).

ဟဇရသ် အစ်ဗ္ဗလ်လာဟ် (ﷺ) ၏ကြင်ယာတော် ဟဇရသ်ဇိုင်နဗ် (ﷺ) သခင်မဆင့်ပြန်ခဲ့သည်။ ကျွန်မတို့အား တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အသင်မတို့အနက်မှ တစ်ဦးတစ်ယောက်သည် ဗလီဝတ်ကျောင်းတော်သို့သွားမည်ဆိုလျှင် အမွှေးနံ့သာမလိမ်းကြံပါနှင့်။

## (၃၂) အမျိုးသမီးများ ဂျဟန္နမ်အပါယ်ငရဲသို့လားရမည့် အကြောင်းခံအချို့

عَنْ جَابِرِ بْنِ عَبْدِ اللهِ، قَالَ: شَهِدْتُ مَعَ رَسُولِ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ الصَّلَاةَ يَوْمَ الْعِيدِ، فَبَدَأَ بِالصَّلَاةِ قَبْلَ الْخُطْبَةِ، بِغَيْرِ أَذَانٍ وَلَا إِقَامَةٍ، ثُمَّ قَامَ مُتَوَكِّئًا عَلَى بِلَالٍ، فَأَمَرَ بِتَقْوَى اللهِ، وَحَثَّ عَلَى طَاعَتِهِ، وَوَعَظَ النَّاسَ وَذَكَّرَهُمْ، ثُمَّ مَضَى حَتَّى أَتَى النِّسَاءَ، فَوَعَظَهُنَّ وَذَكَّرَهُنَّ، فَقَالَ: «تَصَدَّقْنَ، فَإِنَّ أَكْثَرَكُنَّ حَطَبُ جَهَنَّمَ»، فَقَامَتِ امْرَأَةٌ مِنْ سِطَةِ النِّسَاءِ سَفْعَاءُ الْخَدَّيْنِ، فَقَالَتْ: لِمَ؟ يَا رَسُولَ اللهِ قَالَ: «لِأَنَّكُنَّ تُكْثِرْنَ الشَّكَاةَ، وَتَكْفُرْنَ الْعَشِيرَ»، قَالَ: فَجَعَلْنَ يَتَصَدَّقْنَ مِنْ حُلِيِّهِنَّ، يُلْقِينَ فِي ثَوْبِ بِلَالٍ مِنْ أَقْرِطَتِهِنَّ وَخَوَاتِمِهِنَّ. (متفق عليه).

ဟဇရသ် ဂျာဗိရ်ဗင်န် အစ်ဗ္ဗလ်လာဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် အီးဒ်နေ့တွင် ကိုယ်တော်မြတ် (ﷺ) နှင့်တကွ နမားဇ်တွင်ပါဝင်ခဲ့သည်။ ခွသ်ဗာမဖတ်မီ အဇာန်အေကာမသ်မပါဘဲ (အီးဒ်)

နမားဇ်ဖတ်ခဲ့ကြသည်။ ပြီးနောက် ကိုယ်တော်မြတ် (ﷺ) သည် ဟာဇရသ်ဗေလားလ်သခင်အား အမိန့်ပြု၍မတ်တပ်ရပ်တော်မူသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်အား အကြောက်တရားထားရန် အမိန့်ပေးတော်မူပြီး ထိုအရှင်မြတ်အမိန့်နာခံရန် တိုက်တွန်းတော်မူသည်။ ဤသို့ဖြင့်ကိုယ်တော်မြတ် (ﷺ) သည်လူတို့အား တရားရေအေးတိုက်ကျွေးတော်မူ၍ သတိပေးနှိုးဆော်တော်မူသည်။ အချိန်အနည်းငယ်ကြာပြီးနောက် ကိုယ်တော်သည် အမျိုးသမီးများထံကြွမြန်း၍ ထိုသူမများအားလည်း တရားရေအေးတိုက်ကျွေးတော်မူပြီး သတိပေးနှိုးဆော်တော်မူသည်။ မိန့်တော်မူသည်မှာ အသင်မတို့ ဆွဒကာဟ်အလှူဒါနပြုကြကုန်လော့။ အကြောင်းအရင်းမှာ အသင်မတို့အနက် အများစုသည် ဂျဟန္နမ်၏မီးစာများဖြစ်မည်။ ထိုအခါ အမျိုးသမီးများအနက်မှ အမျိုးဂုဏ်ရှိပြီး ပန်းရင့်ရောင်သန်းနေသော ပါးပြင်ပိုင်ရှင်အမျိုးသမီးတစ်ဦးသည် ထ၍လျှောက်ထားသည်မှာ အို- အလ္လာဟ်အရှင်မြတ်၏ရစူလ် အဘယ်အတွက်ကြောင့် ဤသို့ဖြစ်ရပါသနည်း။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အကြောင်းအရင်းမှာ အသင်မတို့သည် များစွာညည်းညူမြည်တမ်းကြပြီး မိမိတို့၏ခင်ပွန်းသည်များကို ကျေးဇူးကန်းကြပေသည်။ ဟာဇရသ်ဂျာဗိရ် (رضي الله عنه) မိန့်သည်မှာ ထိုအခါ အမျိုးသမီးများသည် မိမိတို့၏လက်ဝတ်တန်ဆာများကို လှူဒါန်ကြပြီး မိမိတို့၏နားကပ်များနှင့် လက်စွပ်များကို ဟာဇရသ် ဗေလားလ်သခင်၏ အဝတ်ထဲတွင်ထည့်ပေးကြပေသည်။

## (၃၃) အကယ်၍ခင်ပွန်းသည်သည် အတိုင်းအထက်အလွန် စေးနဲ့တွန့်တိုသူဖြစ်လျှင် ဇနီးသည်သည် ၎င်း၏ငွေကြေးမှ လျှော်ကန်သင့်မြတ်သည့် အသုံးစရိတ်ကို ရယူခြင်းပိုင်ပေသည်

عَنْ عَائِشَةَ، قَالَتْ: دَخَلَتْ هِنْدٌ بِنْتُ عُتْبَةَ امْرَأَةُ أَبِي سُفْيَانَ عَلَى رَسُولِ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، فَقَالَتْ: يَا رَسُولَ اللهِ، إِنَّ أَبَا سُفْيَانَ رَجُلٌ شَحِيحٌ، لَا يُعْطِينِي مِنَ النَّفَقَةِ مَا يَكْفِينِي وَيَكْفِي بَنِيَّ إِلَّا مَا أَخَذْتُ مِنْ مَالِهِ بِغَيْرِ عِلْمِهِ، فَهَلْ عَلَيَّ فِي ذَلِكَ مِنْ جُنَاحٍ؟ فَقَالَ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «خُذِي مِنْ مَالِهِ بِالْمَعْرُوفِ مَا يَكْفِيكِ وَيَكْفِي بَنِيكِ». (رواه مسلم).

ဟဇရသ်အာအေရှာဟ် (﵂) သခင်မဆင့်ပြန်ခဲ့သည်။ ဟဇရသ် အဗူစွဖ်ယာန်၏ဇနီး အွသ်ဘာ၏သမီး ဟင်းန်ဒ် သည် တမန်တော်မြတ် (ﷺ) ထံခစားဝင်ပြီး လျှောက်ထားသည်မှာ… အို-အရှင်မြတ်၏ ရစူလ် အမှန်စင်စစ် အဗူစွဖ်ယာန်သည် အတိုင်းထက်အလွန် စေးနဲ တွန့်တိုသူဖြစ်ပါသည်။ သူသည် ကျွန်တော်မျိုးမနှင့် ကျွန်တော်မျိုးမ၏ သားသမီးများ လိုအပ်သည့် အသုံးစရိတ်ကို (လုံလောက်စွာ) ပေးခြင်း မရှိပေ။ သို့ပါ၍ကျွန်တော်မျိုးမသည် ၎င်းအားအသိမပေးဘဲ ၎င်း၏ ငွေကြေးများကို ရယူပါသည်။ သို့ဖြစ်ရာ ထိုအရာနှင့်စပ်လျဉ်း၍ ကျွန်တော်မျိုးမအပေါ် အပြစ်တစ်စုံတစ်ရာ ထိုက်သက်ပါသလော။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိသည်မှာ အသင်မသည် သူ၏

ငွေကြေးမှ လျော်ကန်သင့်မြတ်စွာ အသင်မနှင့် အသင်မ၏ကလေးများ အတွက် လိုအပ်သည့်ခန့်ရယူပါ။

## (၃၄) အမျိုးသမီးတစ်ဦးသည် ကြောင်တစ်ကောင်အား အကြောင်းပြု၍ ပြစ်ဒဏ်ပေးခံရခြင်းအကြောင်း

عَنْ عَبْدِ اللّٰهِ، أَنَّ رَسُولَ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ قَالَ: «عُذِّبَتِ امْرَأَةٌ فِي هِرَّةٍ سَجَنَتْهَا حَتَّى مَاتَتْ فَدَخَلَتْ فِيهَا النَّارَ، لَا هِيَ أَطْعَمَتْهَا وَسَقَتْهَا، إِذْ حَبَسَتْهَا، وَلَا هِيَ تَرَكَتْهَا تَأْكُلُ مِنْ خَشَاشِ الْأَرْضِ». (متفق عليه).

ဟဇရသ်အဗ်ဒွလ်လာဟ်ဗင်န်းအိုမရ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည် တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အမျိုးသမီးတစ်ဦးသည် ကြောင်တစ်ကောင်အား အကြောင်းပြု၍ အဇာဗ်အပြစ်ဒဏ်ခံရပေသည်။ ထိုသူမသည်ကြောင်အား သေဆုံးသည်အထိ ချုပ်နှောင်ထားခဲ့ပေသည်။ သို့ဖြစ်ပေရာ ထိုကြောင်ကို အကြောင်းပြု၍ ဂျဟန္နမ် အပယ်ငရဲသို့ဝင်ရောက်ရပေသည်။ သူမသည်ကြောင်အား ချုပ်နှောင်ထားပြီး အစာရေစာတိုက်ကျွေးခြင်းလည်းမပြုသလို ထိုကြောင် အား လွှတ်ထား၍ မြေပြင်ပေါ်တွင်ရှိသော ပိုးမွှားများကို စားသုံးစေခြင်းလည်း မပြုသောကြောင့်ပင်တည်း။

## (၃၅) ခွေးတစ်ကောင်ကိုရေတိုက်၍ ဂျဟန္နမ်အပါယ်ငရဲမှ လွတ်မြောက်မှုရရှိခဲ့သည့် ပြည့်တန်ဆာမတစ်ဦးအကြောင်း

عَنْ أَبِي هُرَيْرَةَ، عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «أَنَّ امْرَأَةً بَغِيًّا رَأَتْ كَلْبًا فِي يَوْمٍ حَارٍّ يُطِيفُ بِبِئْرٍ، قَدْ أَدْلَعَ لِسَانَهُ مِنَ الْعَطَشِ، فَنَزَعَتْ لَهُ بِمُوقِهَا فَغُفِرَ لَهَا». (رواه مسلم).

ဟဇရသ်အဗူဟိုရိုင်ရာဟ် (ﷺ) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ မုချကေန် ပြစ်တန်ဆာအမျိုးသမီးတစ်ဦးသည် ပူပြင်းသောတစ်နေ့၌ ရေတွင်းအနားတဝိုက်တွင် လှည့်ပတ်သွားလာနေသည့် ခွေးတစ်ကောင်ကိုတွေ့မြင်ခဲ့သည်။ ထိုခွေးသည် ရေဆာသောကြောင့် ၎င်း၏လျှာကို ပါးစပ်အပြင်ဘက်သို့ထုတ် ထားပေသည်။ သို့ဖြစ်ပေရာ ထိုအမျိုးသမီးသည် မိမိ၏သားရေခြေစွပ် အထူတွင် ထိုခွေးသောက်ရန်ရေဖြည့်ပေးခဲ့သည်။ ထို့ကြောင့်အလ္လာဟ်အရှင်မြတ်သည် ထိုသူမအားလွတ်ငြိမ်းချမ်းသာ ခွင့် ချီးမြှင့်တော်မူခဲ့သည်။

## (၃၆) ဟဇရသ်ဂျာဗစ်ရ် (ﷺ) သည် မိမိ၏ညီအစ်မများအား အကြင်နာတရားထားပုံ

عَنْ جَابِرٍ، قَالَ: قَالَ لِي رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ «هَلْ نَكَحْتَ يَا جَابِرُ؟» قُلْتُ: نَعَمْ، قَالَ: «مَاذَا أَبِكْرًا أَمْ ثَيِّبًا؟» قُلْتُ: لاَ بَلْ ثَيِّبًا، قَالَ «فَهَلَّا جَارِيَةً تُلاَعِبُكَ» قُلْتُ: يَا رَسُولَ اللَّهِ إِنَّ أَبِي قُتِلَ يَوْمَ أُحُدٍ، وَتَرَكَ

تِسْعَ بَنَاتٍ، كُنَّ لِي تِسْعَ أَخَوَاتٍ، فَكَرِهْتُ أَنْ أَجْمَعَ إِلَيْهِنَّ جَارِيَةً خَرْقَاءَ مِثْلَهُنَّ، وَلَكِنِ امْرَأَةً تَمْشُطُهُنَّ وَتَقُومُ عَلَيْهِنَّ، قَالَ: «أَصَبْتَ». (متفق عليه).

ဟဇရသ်ဂျာဗစ်ရ် (ﷻ) သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်အား ကိုယ်တော်မြတ် (ﷺ) မေးမြန်းသည်မှာ ... အို-ဂျာဗစ်ရ် အသင်သည် နေကာဟ်ပြုခဲ့ပါသလော။ ထိုအခါကျွန်ုပ်သည် ဟုတ်မှန်ကြောင်း လျှောက်ထားခဲ့သည်။ ထို့နောက် ကိုယ်တော်မြတ်အမိန့်ရှိ တော်မူသည်မှာ အသင်သည်အပျိုနှင့်ထိမ်းမြားခဲ့သလော (သို့) အအိုနှင့်ထိန်းမြားခဲ့သလော။ ထိုအခါကျွန်ုပ်သည် အပျိုနှင့်မဟုတ်ဘဲ အအိုနှင့် သာ နေကာဟ်ပြုခဲ့ကြောင်း လျှောက်ထားခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်မှာ အသင်သည်အဘယ့်အတွက်ကြောင့် အပျိုနှင့် နေကာဟ်မပြုခဲ့သနည်း။ ထိုသို့ပြုလုပ်ခဲ့လျှင် ၎င်းသူမသည် အသင်နှင့် ဆော့ကစားပေမည်။ ထိုအခါ ကျွန်ုပ်ကလျှောက်ထားသည် မှာ အို-အလ္လာဟ်အရှင်မြတ်၏ရစူလ် ကျွန်ုပ်၏ဖခင်သည် အိုဟွတ်ဒ် စစ်ပွဲနေ့တွင် ရှဟီးဒ်ပြုခြင်းခံခဲ့ရသည်။ ၎င်းဖခင်သည် သမီး (၉) ဦး ချန်ရစ်ခဲ့သည်။ ထိုသို့ဖြင့် ကျွန်တော်မျိုး၏ညီအမ (၉) ဦးရှိပေရာ ကျွန်တော်မျိုးသည် ၎င်းတို့ကဲ့သို့ အလုပ်ကျွမ်းကျင်မှုမရှိသည့် အမျိုးသမီးတစ်ဦးကို ထိုသူမများနှင့်အတူထားရန် မနှစ်မြို့ပါ။ ထိုသို့ မဟုတ်ဘဲ (အလုပ်ကျွမ်းကျင်သည့်) အမျိုးသမီးတစ်ဦးဖြစ်လျှင် ထိုညီအစ်မများအား ဆံကေသာဖီးပေးပြီး ၎င်းတို့၏ အခြားကိစ္စရပ်များကို

လည်းဆောင်ရွက်ပေးလိမ့်မည်။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) မိန့်သည်မှာ အသင်သည်အမှန်ကိုပြုခဲ့ခြင်းဖြစ်သည်။

## (၃၇) နေကာဟ်ထိမ်းမြားမည်ဆိုလျှင် ဘာသာရေးကိုင်းရှိုင်းသော အမျိုးသမီးနှင့် ထိမ်းမြားရန်အကြောင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللَّهُ عَنْهُ، عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: " تُنْكَحُ المَرْأَةُ لِأَرْبَعٍ: لِمَالِهَا وَلِحَسَبِهَا وَجَمَالِهَا وَلِدِينِهَا، فَاظْفَرْ بِذَاتِ الدِّينِ، تَرِبَتْ يَدَاكَ ". (متفق عليه).

ဟာဇရတ်အဗူဟိုရိုင်ရာဟ် (رضي الله عنه) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အမျိုးသမီးများသည်အချက် (၄) ချက်ကိုအကြောင်းပြု၍ နေကာဟ်ထိမ်းမြားခြင်းခံရပေသည်။

(၁) ထိုသူမ၏ဥစ္စာပစ္စည်းကိုအကြောင်းပြု၍လည်းကောင်း ...

(၂) ထိုသူမ၏ အမျိုးဂုဏ်တင့်တယ်မှုကြောင့်လည်းကောင်း ...

(၃) ထိုသူမ၏ ချောမောလှပမှုကြောင့်လည်းကောင်း ...

(၄) ထိုသူမ၏ ဘာသာရေးကိုင်းရှိုင်းမှုကြောင့်လည်းကောင်း ဖြစ်သည်။

သို့ဖြစ်ပေရာ အသင်သည်ဘာသာရေးကိုင်းရှိုင်းသည့် အမျိုးသမီးကိုယူပါ။ အသင့်အဖို့အကျိုးဖြစ်ထွန်းပေမည်။

## (၃၈) ဟဇရသ်အာအေရှာဟ် (﵅) သခင်မ၏ မင်္ဂလာထိမ်းမြား ခြင်းအကြောင်း

عَنْ عَائِشَةَ، «أَنَّ النَّبِيَّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ تَزَوَّجَهَا وَهِيَ بِنْتُ سَبْعِ سِنِينَ، وَزُفَّتْ إِلَيْهِ وَهِيَ بِنْتُ تِسْعِ سِنِينَ، وَلُعَبُهَا مَعَهَا، وَمَاتَ عَنْهَا وَهِيَ بِنْتُ ثَمَانَ عَشْرَةَ». (رواه مسلم).

ဟဇရသ်အာအေရှာဟ် (﵅) သခင်မမှဆင့်ပြန်ချက်လာရှိသည်မှာ တမန်တော်မြတ် (ﷺ) သည် သခင်မနှင့် (၇) နှစ်သမီးအရွယ်တွင် ထိမ်းမြား၍ (၉) နှစ်သမီးအရွယ်တွင် တမန်တော်မြတ် (ﷺ) သည် ခန်းအပ်ပေသည်။ ထိုအချိန်တွင် သခင်မနှင့်ဆော့ကစားစရာအရုပ်များ အတူတကွပါရှိပေသည်။ ထိုသို့ဖြင့် သခင်မ (၁၈) နှစ်အရွယ်သို့ရောက်ရှိ သည့်အခါ ကိုယ်တော်မြတ် (ﷺ) သည်ကွယ်လွန်တော်မူလေသည်။

## (၃၉) သမီးများအား အရွယ်ရောက်သည်အထိ ပြုစုပေးခြင်း၏ အကျိုးရလဒ်

عَنْ أَنَسِ بْنِ مَالِكٍ، قَالَ: قَالَ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «مَنْ عَالَ جَارِيَتَيْنِ حَتَّى تَبْلُغَا، جَاءَ يَوْمَ الْقِيَامَةِ أَنَا وَهُوَ» وَضَمَّ أَصَابِعَهُ. (رواه مسلم).

ဟဇရသ်အနက်စ်ဘင်န်မာလစ်က် (﵁) ဆင့်ပြန်ခဲ့သည်။ တမန် တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ အကြင်သူသည် သမီးငယ်နှစ်ဦး

အား အရွယ်ရောက်သည်အထိ ၎င်းတို့၏ဝေယျာဝစ္စကိစ္စများကို ဆောင်ရွက်ပေးခဲ့လျှင် ကိယာမသ်နေ့တွင် ငါကိုယ်တော်နှင့်အတူ ဤသို့ရှိမည်။ ထို့နောက် ကိုယ်တော်သည် လက်ချောင်းများကို ပူးကပ်တော်မူသည်။

## (၄၀) ဇနီးမောင်နှံနှစ်ဦး ကိုယ်လက်နှီးနှောမှုမပြုမီဖတ်ရမည့်ဒိုအာ

عَنِ ابْنِ عَبَّاسٍ، قَالَ: قَالَ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: " لَوْ أَنَّ أَحَدَهُمْ إِذَا أَرَادَ أَنْ يَأْتِيَ أَهْلَهُ، قَالَ: بِاسْمِ اللهِ، اللهُمَّ جَنِّبْنَا الشَّيْطَانَ، وَجَنِّبِ الشَّيْطَانَ مَا رَزَقْتَنَا، فَإِنَّهُ إِنْ يُقَدَّرْ بَيْنَهُمَا وَلَدٌ فِي ذَلِكَ، لَمْ يَضُرَّهُ شَيْطَانٌ أَبَدًا ". (متفق عليه).

ဟဇရသ် အဗ်ဒွလ်လားဗင်န် အဗ္ဗားစ် (ﷺ) ခင်ဆင့်ပြန်ခဲ့ သည်။ တမန်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်မှာ အကယ်၍ အသင်တို့အနက်မှ တစ်ဦးတစ်ယောက်သည် မိမိဇနီးသည်နှင့် ကိုယ်လက်နှီးနှောရန် လိုလားပါက အောက်ပါဒိုအာကို ဖတ်ပါ။

بِسْمِ اللهِ اَللّٰهُمَّ جَنِّبْنَا الشَّيْطَانَ وَجَنِّبِ الشَّيْطَانَ مَارَزَقْتَنَا

ဒိုအာ၏အဓိပ္ပါယ်မှာ အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။ အို–အရှင် ကျွန်တော်မျိုးတို့အား ရှိုင်သွာန်၏ ဘေးရန်မှ ဝေးကွာစေတော်မူပြီး ကျွန်တော်မျိုးတို့အား အရှင်မြတ်ချီးမြှင့်တော်မူမည့် (သား၊ သမီးရတနာများ) ကိုလည်းရှိုင်သွာန်၏ဘေးရန်မှ ကင်းစေတော်မူပါ။

အကြောင်းမှာ ထိုသို့ဖြင့်ဇနီးမောင်နှံနှစ်ဦးအတွက် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ သားသမီးရတနာရရန် သတ်မှတ်ထားတော်မူပါလျှင် ရှိုင်သွာန်သည် ထိုကလေးငယ်အား မည်သည့်အခါမှ အန္တရာယ်မပြုနိုင်ပေ။